# ဓမ္မကချောင်သမိုင်း

နှင့်

# ထွင့်ခေါင်ဆရာတော်ဘုရားကြီးလေးပါး

၏

# ထေရုပ္ပတ္တိ



## ဦးခန္တီတာရ

ရေးသားပြုစုသည်

ဓမ္မဒါန



ပထမထွင့်ခေါင်
ဆရာတော်ဘုရားကြီး ရုပ်ထုတော်

# မာတိကာ

အပိုင်း (၂)

အပိုင်း (၃)

# နိဒါန်း

ထွင့်ခေါင်ဆရာတော်ကြီး၏ ကမ္မဋ္ဌာန်းသံပေါက် များမှာ နှစ်ပေါင်း ၁၀၀ ကျော်ပြီ ဖြစ်သော်လည်း ယနေ့ထိတိုင်အောင် လူထုအများတို့ လေးစားစွာ ရွတ်ဆိုနေကြဆဲပင်ဖြစ်ပါသည်။ သံပေါက်များ၏အဓိပ္ပာယ် လေးနက် ကောင်းမွန်ခြင်း၊ ရှင်းလင်းလွယ်ကူခြင်းတို့ကြောင့် နှစ်သက် သဘောကျသူ များသည်။

ဆရာတော်ကြီး၏ ကမ္မဋ္ဌာန်းသံပေါက်များကို နှစ်သက် လက်ခံကြသည်နှင့်အမျှ ထွင့်ခေါင်ဆရာတော်ကြီးကိုလည်းကောင်း၊ ထွင့်ခေါင်ဆရာတော်ကြီး တည်ထောင် သီတင်းသုံးတော်မူခဲ့သော ဓမ္မိကချောင်ကိုလည်းကောင်း စိတ်ဝင်စားကြသူ များပါသည်။ စစ်ကိုင်းတောင်ရိုးရှိ ဓမ္မိကချောင်သို့ ဝေးလံခဲယဉ်းစွာပင် ရောက်လာကြပြီး လေ့လာသော သုတေသီများလည်း များစွာ ရှိကြပါသည်။

ယဉ်ကျေးမှုနှင့် သမိုင်းသုတေသီဆရာတော် ရွှေကိုင်းသား (ဦးသောဘိတ) ကလည်း "ဓမ္မိကချောင်ကြီးနှင့် ထွင့်ခေါင်ဆရာတော်အဆက်ဆက်တို့ အကြောင်းမှာ လွယ်လင့်တကူ ပျောက်ကွယ်စကောင်းသည်မဟုတ်ပဲ စာတစ်စောင်၊ ပေတစ်ဖွဲ့ မှတ်တမ်းတင်သင့်ကြောင်း" စာရေးသူကို တိုက်တွန်းပါသည်။

စာရေးသူအနေဖြင့် ဓမ္မိကချောင်ကြီးနှင့် ထွင့်ခေါင်ဆရာတော်အဆက်ဆက်တို့အကြောင်း စာအုပ်ကိုပြုစုရန်အတွက် မော်ဘီဆရာသိန်းကြီးမှတ်စု၊ စစ်ကိုင်း ရွှေဟင်္သာဆရာတော်ကြီး ရေးသားပြုစု

တော်မူသည့် ထွင့်ခေါင်ဆရာတော်ကြီးအကြောင်း လက်လှမ်းမီသမျှ ကျောက်စာ၊ ရာဇဝင်၊ မှတ်တမ်းများကို အခြေခံလျက်လည်းကောင်း၊ စတုတ္ထထွင့်ခေါင်ဆရာတော်ကြီး သက်တော်ထင်ရှားရှိစဉ်က ဆရာတော်ကြီးအားလည်းကောင်း၊ အခြားသိမီ မှတ်သားထားရှိကြသော ရဟန်းတော်၊ သီလရှင်၊ လူပုဂ္ဂိုလ်များအား ဆွေးနွေး မေးမြန်း မှတ်သား၍ လည်းကောင်း ဤစာအုပ်ကို ပြုစုခြင်း ဖြစ်ပါသည်။

ပထမထွင့်ခေါင်ဆရာတော်ကြီး ဘဝနတ်ထံ ပျံလွန်သည့်အခါ စံကျောင်းတော်မှာ မီးခသဖြင့် မှတ်သားချက် စာ ပေ တို့ ဆုံးရှုံးခဲ့ရပါသည်။

ဒုတိယဆရာတော်ပြုစုသော စာမူများမှာလည်း ယခင်သီတင်းသုံးရာ ကောင်းမှုတော် တောကျောင်း၌ ကျန်နေရစ်ခိုက် ဒကာတစ်ယောက် စာထုပ်များကို ရောင်းချပစ်လိုက်သောကြောင့် ရင်မ၍ စုတ်သပ် နေတော်မူရပါသည်။

သို့ပါ၍ အထောက်အထား နည်းပါးသည့် အခြေအနေတွင်ရှိသော်လည်း လက်လှမ်းမီသမျှ စုစည်း၍ ကျန်ကောင်းကျန်ရာ စာတိုပေစများ အပေါ်တွင် အခြေပြုကာ ဤစာအုပ်ကို ပြုစုရခြင်း ဖြစ်ပါသည်။

**ဦးစန္ဒိစာရ**
ခမ္မိကချောင်
စစ်ကိုင်းတောင်ရိုး

# အပိုင်း (၁)

"နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ"

## ပထမထွင့်ခေါင် ဆရာတော်ကြီး ဘဝဖြစ်စဉ်

### ဇာတိနှင့် မိဘ

မြန်မာသက္ကရာဇ် ၁၁၆၀ ပြည့်နှစ်၊ တပေါင်းလဆန်း ၁၅ ရက်၊ အင်္ဂါနေ့ နေတက်ချိန်မှာ ပထမထွင့်ခေါင်ဆရာတော် အလောင်းအလျာ 'မောင်စို' ကို ဟင်္သာတခရိုင် လေးမျက်နှာမြို့နယ် မြင်းကံကုန်းရွာတွင် ခမည်းတော် 'ဦးလူကြီး'၊ မယ်တော် 'ဒေါ်မေ' တို့က ဖွားမြင်သည်။

မွေးချင်း (၂) ဦးတွင် ဒုတိယဖြစ်၏။ ပထမသမီးက 'မယ်ငွေ' ဖြစ်သည်။

### သာမဏေပြုတော်မူခြင်း

မောင်စို ၇ နှစ်သား အရွယ်ရောက်လျှင် ငတရော်ကျွဲခေါင်းဆရာတော်ကြီးထံ၌ အပ်နှံ၍ ပညာသင်ရ၏။ ၁၃ နှစ်သားအရွယ်တွင်

မိဘနှစ်ပါးတို့က ပစ္စည်းလေးပါးထောက်ပံ့ပြီး တေရော်ကျွဲခေါင်း ဆရာတော်ကြီးထံတွင် ရှင်သာမဏေ ပြုသည်။ ဘွဲ့အမည်မှာ "ရှင်ဉာဏဝံသ" ဖြစ်ပါသည်။

## အင်းဝနေပြည်တော်သို့

ရှင်သာမဏေအဖြစ်နှင့် ပညာသင်ကြားနေခိုက်တွင် ထိုအရပ် ဇာတိဖြစ်သော မန်ကျည်းတောဆရာတော်သည် အင်းဝနေပြည်တော်မှ တေရော် ကျွဲခေါင်းကျောင်းသို့ ခေတ္တကြွလာသည်။ မန်ကျည်းတော ဆရာတော်၏ တိုက်တွန်းချက်၊ လက်ခံချက်ဖြင့် ရှင်ဉာဏဝံသသည် ၁၅ နှစ်သားအရွယ်တွင် အင်းဝနေပြည်တော်သို့လိုက်ပါ၍ မန်ကျည်း တော ကျောင်းတိုက်၌ သီတင်းသုံး နေထိုင်တော်မူသည်။

ရှင်ဉာဏဝံသသည် စာပေကို အထူးကြိုးစားသဖြင့် ရှင်သာမဏေ အဖြစ်နှင့်ပင် သင်ရိုးစာပေများကို ပေါက်ရောက်တော် မူ၏။ ကိုယ်နှုတ် နှလုံး တည်ငြိမ်ပြီး ဣန္ဒြေယသံဝရသီလနှင့် ပြည်စုံ တော်မူသဖြင့် ဘိုးတော်ဗဒုံမင်း၏မြေးတော်၊ အိမ်ရှေ့မင်း၏မိဖုရား (နောင်တွင် မိဖုရားခေါင်ကြီး ဖြစ်လာသည့်) 'မယ်နု' က ပစ္စည်း လေးပါးဖြင့် ထောက်ပံ့ ချီးမြှင့် ကိုးကွယ်ပါသည်။

## ရဟန်းပြုတော်မူခြင်း

သက်တော် ၂၀-သို့ ရောက်သောအခါ အိမ်ရှေ့မင်းမိဖုရား မယ်နု ကပင် ရဟန်းအမအဖြစ် ပစ္စယာနုဂ္ဂဟဖြင့် ချီးမြှောက်၍ သက္ကရာဇ် ၁၁၈၀ ပြည့်နှစ်တွင် ရှင်ဉာဏဝံသ ရဟန်းပြုတော်မူသည်။

မန်ကျည်းတောဆရာတော်ကြီးက ဥပဇ္ဈာယ်ဆရာ ပြုတော်မူပါသည်။

ရဟန်းဘဝတွင် ကိုယ်နှုတ်နှလုံး တည်ငြိမ်ပြီး ပိဋကတ်စာပေ ကျမ်းဂန်များလည်း တတ်ကျွမ်းပေါက်ရောက်သဖြင့် မိဖုရားမယ်နုက အလွန်လေးစား ကြည်ညို၍ အထူးဂရုပြု ကိုးကွယ်ပါသည်။

## ဆွေမျိုးများကို ချီးမြှောက်ခြင်း

၁၁၈၁ ခု၊ နတ်တော်လဆန်း ၁၃ ရက်၊ စနေနေ့တွင် ဘကြီးတော် မင်းအဖြစ်သို့ ရောက်သည်။ မိဖုရား မယ်နုကိုပင် တောင်ညာတင် မိဖုရားကြီးအရာတွင် ထား၏။

မင်း မိဖုရား နှစ်ပါးက ကိုးကွယ်ရင်းဆရာတော်ကို ချီးမြှောက်လိုသောကြောင့် အောက်ရပ်အောက်ပြေတွင် နေထိုင် ကျန်ရစ်သော အရှင်ဉာဏဝံသ၏ မွေးချင်းများကိုလည်း ခေါ်ယူပါရန် လျှောက်ထားကြသည်။ ခမည်းတော်နှင့် မယ်တော်မှာ ကွယ်လွန်ကြပြီ ဖြစ်သဖြင့် အစ်မအရင်းဖြစ်သော 'ဒေါ်ငွေ' နှင့် ခင်ပွန်း 'ဦးစံလုံး' ကို ခေါ်ယူပြီး စစ်ကိုင်းမြို့ ပွဲဆိပ်ရပ်တွင် မိဖုရားခေါင်ကြီးက ကောင်းစွာထောက်ပံ့ ထားရှိသည်။

## မင်းနှင့်မိဖုရား

အရှင်ဉာဏဝံသ၏ ပစ္စည်းလေးပါး ဒကာများ ဖြစ်သည့် ဘကြီးတော်နှင့် တောင်နန်းစံ အဂ္ဂမဟေသီ နန်းမတော်မယ်နုတို့သည် ၁၁၈၃ ခုနှစ်တွင် အင်းဝမြို့ဟောင်းကို ပြုပြင်ပြီး၊ ၁၁၈၅ ခု တပေါင်းလဆန်း ၁ ရက် နေ့တွင် အမရပူရမြို့မှ အင်းဝမြို့နန်းတော်

သစ်သို့ ကြွချီ၍ ရာဇဘိသေက မုဒ္ဒါဘိသိက်ကို သွန်းခံတော်မူကြသည်။ "သီရိတြိဘဝနာ ဒိတျာပဝရ ပဏ္ဍိတ မဟာဓမ္မရာဇာဓိရာဇာ" နှင့် "သီရိပဝရတိလောက မဟာရာဇိန္ဒာ ရတနာဒေဝီ" ဟူသော တံဆိပ်နာမံတော်များကို အဆက်အသ ခံတော်မူသည်။

ဘကြီးတော်ဟု ခေါ်တွင်ရခြင်းမှာ နောက်ပိုင်းတွင် မင်းတုန်းမင်း၊ ပုဂံမင်းတို့မှထောက်၍ တွင်ခြင်း ဖြစ်သည်။ ဘိုးတော် ဗဒုံမင်း၏ သားတော်နတ်ရွာစံနှင့်၍ မြေးတော် (အိမ်ရှေ့မင်း၏သားတော်) စစ်ကိုင်းမင်း နန်းတက်လာခြင်း ဖြစ်ပါသည်။

## နန်းမတော်၏နှလုံးရည်

အရှင်ဉာဏဝံသအား နန်းမတော်မယ်နုသည် မိဖုရားခေါင်ကြီး ဖြစ်သည့်အခါတွင်လည်း သဒ္ဓါထက်သန်စွာ ဆက်လက် ကိုးကွယ် ဆည်းကပ်ပါသည်။

ရဟန်း ၅-ဝါအရတွင် ပုထုဇဉ်သဘာဝအရ သာသနာတော်တွင် မပျော်မွေ့၍ လူထွက်လိုကြောင်း ရဟန်းအမ မိဖုရားခေါင်ကြီးထံသို့ ကပ္ပိယလွှတ်ပြီး ဝတ်စုံ ၂ စုံနှင့် ဝတ္ထုငွေ ၁၀၀၊ အလှူခံလိုက်သည်။

မိဖုရားခေါင်ကြီးမှာလည်း နှလုံးရည်ရှိသဖြင့် "ကောင်းပါပြီ၊ နက်ဖြန်ခါ ရွှေနန်းတော်သို့ ဆွမ်းဘုဉ်းပေးရန် ဦးပဉ္စင်း ကြွတော်မူပါဘုရား" ဟု အရှင်ဉာဏဝံသ ပေးလိုက်သော ပုရပိုက်၏ကြောဘက် တွင်ပင် စာရေးကာ ကပ္ပိယကြီးကို ပြန်ပေးလိုက်၏။

နန်းမတော် မယ်နုသည် ရွှေနန်းတော်၌ နေရာထိုင်ခင်းတို့ကို ကောင်းစွာ ခင်းကျင်း၍ ဆွမ်းအုပ်ပွဲများကို ပြင်ဆင်သည်။ ဝတ်စုံ

၂ စုံ နှင့် ဝတ္ထုငွေ ၁၀ဝိ/ ကိုလည်း ကလပ်တစ်ခုစီတွင် တင်၏။ ကိုယ်ရံတော် အပျိုတော် ၃၀ – ကို ဝတ်ကောင်းစားလှ ဝတ်ဆင်စေပြီး အရှင်ဉာဏဝံသဦးပဋ္ဌင်း ကြွလာမည်ကို အခန့်သင့် စောင့်မျှော် နေကြသည်။

အချိန်ကျ၍ ကြွလာသောအခါ ဖွယ်ဖွယ်ရာရာ ဆွမ်းဆက်ကပ်ပြီး နောက် မိဖုရားခေါင်ကြီးက –

“ဦးပဋ္ဌင်းဘုရား .......... အရှင်ဘုရား ပေးစာအရ အလိုရှိတဲ့ ဝတ်စုံနှင့် ဝတ္ထုငွေများကို အဆင့်သင့် စီစဉ်ထားပါပြီဘုရား .......။

“ဒါတွင်မကသေးပါ၊ ဟောဒီအပျိုတော် ၃၀ ထဲက နှစ်သက်ရာ အပျိုတော် တစ်ယောက်ကိုလည်း ရနိုင်ပါတယ်ဘုရား။ ထိုက်သင့်ရာ ရာထူးလည်း ပေးနိုင်ပါတယ်ဘုရား။ ဒါပေမယ့် ...... ဒီနန်းတော်ထဲ ကိုတော့ အခုလို လာဖို့ ခဲယဉ်းပါလိမ့်မယ်။ နန်းတွင်းကိစ္စ၊ လူ့ကိစ္စဆိုတာက အလွန် အင်မတန်ရှုတ်ထွေးတာကြောင့် အရေးကိစ္စ ရှိလို့ တပည့်တော်မဆီ လာရင်တောင်မှ တပည့်တော်မဆီ မရောက်ခင် ကိစ္စချောပါလိမ့်မယ်၊ ရောက်ဖို့မလွယ်တော့ပါဘုရား” လို့ ရှိခိုး ဦးတင် လျှောက်ထားရာ ထွဋ်ခေါင်ဆရာတော်အလောင်း အရှင် ဉာဏဝံသလည်း ဘာမျှ မိန့်တော်မမူပဲ နန်းတွင်းမှ ထပြန်သည်။

ဝတ်စုံနှင့် ငွေလည်း မယူ၊ လူလည်း မထွက်တော့ပဲ ရဟန်းအလုပ် ကိုသာ အားထုတ် နေထိုင်တော့၏။



## တောထွက်တော်မူခြင်း

အရှင်ဉာဏဝံသသည် မန်ကျည်းတော်ဆရာတော်ကြီးနှင့် စာချ အကျော် ဆရာတော်များထံတွင် ၉ – ဝါ တိုင်တိုင် စာပေ ပရိယတ္တိ

နည်းနာနယ စုံလင်အောင် ဆည်းပူး ရရှိပြီးနောက် ပါရမီခာတ်ခံ တိုက်တွန်း စိမ်သည့်အတိုင်း ၁၁၈၈ ခုနှစ်တွင် အင်းဝမြို့ မြောက်ဘက် စစ်ကိုင်းမြို့နှင့် ၂ မိုင်အကွာရှိ စည်းခုံစေတီတော်အနီး မင်းဝံ တောင်ခြေ တောရကျောင်းသို့ တောထွက်တော်မူသည်။

တောထွက်တော်မူသည့်အခါတွင် ရဟန်းအမ မိဖုရားခေါင်ကြီး ကိုပင် အသိမပေးတော့ပဲ ကိုယ့်သပိတ် ကိုယ်ပိုက်၍ တောထွက်ကာ အေးဆေးစွာပင် တောရဆောက်တည် သီတင်းသုံးတော်မူတော့သည်။

## ထွင့်ရှခေါင်ဆရာတော် အမည်တွင်ခြင်း

စည်းခုံစေတီတော်အနီးတွင် တောရဆောက်တည်နေရာ စိတ် သဘောမကျသဖြင့် တစ်ဝါခန့်သာ နေတော်မူပြီး အရှေ့မြောက် အနည်းငယ် ယွန်းယွန်း၊ မင်းဝံတောင်ထိပ်ရှိလှူစဝေးကွာသော မိဖုရား စိုးမင်း တည်ထား ကိုးကွယ်သည့် ရတနာထွင့်ရှခေါင် စေတီတော်အနီးသို့ ပြောင်းရွှေ့၍ တောရဆောက်တည်နေတော်မူသည်။ ထိုအချိန်မှစပြီး "ရတနာထွင့်ရှခေါင် ဆရာတော်ကလေး" ဟု အမည်တွင်လာ၏။

ထွင့်ရှခေါင်တောရကျောင်း၌ သီတင်းသုံးနေစဉ် အနီးအနားတွင် ရှိသော တောရဆရာတော်ကြီးများဖြစ်သည့် ကြာနီကန်ဆရာတော်၊ ကြက်သွန်ခင်းဆရာတော်၊ ရွှေကျောင်းဆရာတော်၊ စဥ့်ဘာဆရာတော်၊ စကြီဆရာတော်ကြီးများ၏ အဆုံးအမ ဩဝါဒများကို ခံယူ နေထိုင် တော်မူပါသည်။

ဇာတိဒုက္ခ

ထွင့်ခေါင်ဆရာတော်ကလေးသည် ဇာတိဒုက္ခကို ကြောက်လှသဖြင့် ပဋိသန္ဓေ များစွာ မနေရသော ရက္ခစိုးဆုကိုသာ ပန်ဆင်တော်မူသည်။ ရက္ခစိုး၏သက်တမ်းမှာ အပိုင်းအခြား မရှိ၊ အရိမေတ္တေယျ ဘုရားရှင် ပွင့်တော်မူချိန်အထိ အသက်ရှည်နိုင်သဖြင့် ဟိမဝန္တာတောကြီးတွင် ရက္ခစိုးကြီးအဖြစ် ပါရမီဖြည့်ကျင့် နေထိုင်ပြီး ဘုရားရှင် လက်ထက်တော်ရောက်မှ လူဖြစ်ကာ လိုရာဘဝသို့ရောက်ရန် ဆုပန်ခြင်း ဖြစ်ပါသည်။

ညနေခင်းအချိန်များတွင် ဆရာတော်ကြီးများနှင့်အတူ စစ်ကိုင်းတောင်ရိုးရှိ ဥမင်သုံးဆယ်ဘုရား၊ ပုညရှင်ဘုရားများသို့ သွားရောက်ဖူးမြော်ကြပါသည်။ ဆရာတော်ကြီးများက "ကိုစိုရာ သတ္တဝါများကို သနားပါ၊ သမ္မာသမ္ဗုဒ္ဓဆုကို တောင်းပါ" ဟု တိုက်တွန်းတော်မူကြလေရာ ထွင့်ခေါင်ဆရာတော်ကလေးက "ဇာတိဒုက္ခတွေကို ကြောက်လွန်း လို့ပါဘုရား" ဟု ငြင်းပယ်သည်ချည်း ဖြစ်သည်။

တိုက်တွန်းဖန် များသဖြင့် တစ်နေ့တွင် ပုညရှင်ဘုရား၌ သမ္မာသမ္ဗုဒ္ဓဆုကို ပန်ခဲ့တော့၏။ သို့ရာတွင် မိမိနေရာတောကျောင်းငယ်သို့ ပြန်ရောက်သည့်အခါ၌ သမ္မာသမ္ဗုဒ္ဓဆု၏ ရှည်ကြာပုံ၊ ပါရမီဖြည့်ကျင့် ရပုံတွေကို ပြန်လည် တွေးတော ကြောက်လန့်သဖြင့် ပါရမီအားချလျော့စွာ ပန်မြဲဆုကိုသာ ပြန်၍ ပန်ဆင်တော်မူလေ၏။

တစ်ညတွင် ကြာနီကန်ဆရာတော်ကြီးက အိပ်မက်မြင်မက်တော်မူသည်။ အိပ်မက်မှကား။ ပင်လယ်ရေပြင်ကျယ်ကို ဆရာတော်များအတူကူးကြရာ၌ ထွင့်ခေါင်ဆရာတော်ကလေးက ရှေ့ဆက်ကူးတော်

မမှုပဲ နောက်သို့သာ ပြန်ကူးသွားသည်” ဟုဖြစ်၏။ နောက်ရက် ဘုရားဖူးထွက်ကြသောအခါ ကြာနီကန်ဆရာတော်က “ကိုစိုတို့များ သတ္တဝါတွေကို မသနားတော့ဘူးလား” ဟု မိန့်တော်မူရာ “ဇာတိ ဒုက္ခတွေကို ကြောက်လွန်းလို့ပါဘုရား” ဟု ပြန် လျှောက်၏။



## ချိန်တန်ပြီ

တစ်နေ့သောအခါတွင် ဘုရားဖူးရာမှ ပြန်လာပြီးနောက် ကျောက်တုံးကြီးတစ်တုံးပေါ်၌ ဆရာတော်များ ညနေ မှောင်ရီသန်းသည့် တိုင်အောင် အလ္လာပ သလ္လာပ တရားစကားများ ပြောဆိုနေမိကြသည်။

ထိုစဉ် ငှက်ကလေးတစ်ကောင်က “ချိန်တန်ပြီ – ချိန်တန်ပြီ” ဟု ၃–၄ ကြိမ်လာ၍ ဆင့်ကာဆင့်ကာ အော်မြည် သတိပေး၏။ ကြာနီကန်ဆရာတော်ကြီးက “ကိုစိုရေ ..... ငှက်ကလေးက သတိပေးနေပြီ၊ သွားကြစို့ရဲ့” ဟုဆို၍ တရားဝိုင်းသိမ်းကာ မိမိတို့ သီတင်းသုံးရာသို့ ပြန်ကြွခဲ့ကြတော့၏။

## ဆက်လက်ရွှေ့ပြောင်းတော်မူခြင်း

ထွင့်ခေါင်ဆရာတော်သည် မင်းဝံတောင်ရိုးက တောကျောင်းကလေးတွင် သီတင်းသုံးနေတော်မူခိုက် တစ်နေ့တွင် ကျန်းမာရေး လွန်စွာချို့ယွင်းသဖြင့် သစ်ပင်တစ်ပင်အောက်တွင် လဲကျနေလေသည်။

သစ်ပင်အောက်တွင် ရဟန်းတော်တစ်ပါး လဲကျနေသည်ကို ကောင်းမှုတော်ရွာအနီးက ရွာသားတို့ တွေ့မြင်ကြ၏။ ဆရာတော်ကို

စုံစမ်း လျှောက်ထားကြသည့်အခါ မကျန်းမာသောကြောင့် မသွား မလာနိုင်ကြောင်း သိရှိကြသဖြင့် ထမ်းစင်ဖြင့် ပင့်ယူကြသည်။ ဆရာတော်ကို ပြုစု စောင့်ရှောက်၍ ကျန်းမာလာသောအခါတွင် ကောင်းမှုတော်မြောက်ဘက်က တောရဖြစ်လောက်သော အရပ်တွင် ကျောင်းဆောက် လှူဒါန်း၍ သီတင်းသုံး နေတော်မူသည်။

## တောရကျောင်းများ ဆက်လက်သီတင်းသုံးတော်မူခြင်း

ကာလအတန်ကြာမျှ ကောင်းမှုတော် တောရကျောင်းတွင် သီတင်းသုံးပြီးသောအခါ ဒကာများ ပင့်ဆောင်ရာ လက်လှုပ် တောရကျောင်း၊ ပဲကတိုးတောရကျောင်း၊ မြင်းမွေးတောရကျောင်း၊ ပေါက်တောကန်တောရကျောင်း (ကုန်းရွာ ကျောက်ဆည်)၊ စာရေး တောရကျောင်း၊ ကျောက်ပန်း တောရကျောင်းတို့၌ လှည့်လည် သီတင်းသုံးတော်မူပါသည်။

လှူသူကင်းသော တောရကျောင်းများတွင် သပ္ပါယသင့်သလို လှည့်လည် သီတင်းသုံးနေတော်မူသော်လည်း "ရတနာထွင့်ခေါင် တောရဆရာတော်" ဟုသာ ဆက်လက် တွင်တော်မူပါသည်။

## ဆင်မချောင် (ခမ္ဘိကချောင်) သို့ ရောက်ခြင်း

ထွင့်ခေါင်ဆရာတော်သည် မင်းဝံတောင်ရိုးပေါ်မှ ဆင်းပြီး တောင်၏ အနောက်ဘက် မြေပြင်တောရကျောင်းများတွင် လှည့်လည် သီတင်းသုံး နေတော်မူရာမှ ၁၂၀၄ ခုနှစ် (သက်တော် ၄၄၊ ဝါတော် ၂၄ အရတွင်) စစ်ကိုင်းတောင်ရိုး ဆင်မချောင် (ခမ္ဘိကချောင်) သို့ ကြွရောက် သီတင်းသုံးတော်မူပါသည်။

## လင်ဖြုန်းချောင် မယားဖြုန်းချောင်

ထွင့်ခေါင်ဆရာတော်၏ ဂုဏ်သတင်းကြောင့် ဆင်မချောင်သို့ လာရောက် ဖူးမြော်ကန်တော့ကြသူတွေ အလွန်များသည်။

ဆရာတော်ကလည်း လာရောက်သူတိုင်းကို သံသရာမှ လွတ်ရာ လွတ်ကြောင်းတရားများကို ဟောပြောပြီး ရဟန်းကျေးဇူး၊ သီလရှင် ကျေးဇူး၊ တောထွက်ခြင်းကျေးဇူးတို့ကို အထူးဟောပြရာ အကျိုးမြင်သူ ဒကာ ဒကာမများလည်း ရဟန်းပြုကြ၊ သီလရှင် ပြုကြတော့သည်။

ဒကာများရဟန်းဝတ်သဖြင့် ဇနီးမယားတို့ မယ်ကျန်ရစ် ဖြစ် ရသည်။ ဒကာမများ သီလရှင်ဝတ်သောအခါ ခင်ပွန်းသည်များ မောင်ကျန်ရစ် ဖြစ်ကုန်၏။ အချို့လည်း လင်စုံ မယားစုံ ရဟန်းဝတ်၊ သီလရှင် ဝတ်ကြသည်။ ထို့ကြောင့် ဆင်မချောင်ကို 'လင်ဖြုန်းချောင်၊ မယားဖြုန်းချောင်' ဟု တီးတိုး ဆိုကြသည်။

ဆရာတော်၏ သြဝါဒကြောင့် အိမ်ထောင်သည်များ၊ အပျို လူပျိုရွယ်များ သာသနာ့ဘောင်သို့ ဝင်လာကြသောကြောင့် ဆင်မချောင်တွင် ရဟန်းတော် ၅၀၀ ကျော်အထိ ရှိလာသည်။ သီလရှင်လည်း များစွာရှိလာပါသည်။ ဆင်မချောင်လည်း တစ်နေ့ တခြား စည်ကားလာပါတော့သည်။



## ငါ့ကျောင်းမဟုတ်

လယ်တီဆရာတော်ကြီးသည် ကပ္ပိယတစ်ယောက်နှင့် အတူ ထွင့်ခေါင်ဆရာတော်ကြီးသီတင်းသုံးရာ ခမ္မိကတိုက်သို့ ဖူးမြော်ရန် သွားသည်။

ထွင့်ခေါင်ဆရာတော်ကြီး၏ဘုန်းကံကြောင့် ဓမ္မိကတိုက်သည် အလွန်အင်မတန် စည်ကားလှ၏။ ချောင်အဝင်စမှစကာ ကျောင်းဆောင်များ၊ မုန်ကျောင်းတော်များ၊ သိမ်၊ ကျောင်း၊ တန်ဆောင်း၊ ဘုရား၊ ဇရပ်များကို သားနားခံ့ညားစွာ တောကြီးထဲတွင် အံ့မခန်း တွေ့မြင်ကြရ၏။

ကပ္ပိယကြီးက ဆရာတော်ကို ဖူးမြော်ကန်တော့ပြီးနောက် "ဆရာတော်ကြီးကျောင်းတွေ ကောင်းလှချည့်လားဘုရား" ဟု လျှောက်ထားပါသည်။ ဆရာတော်က "ငါ့ကျောင်း မဟုတ်ပါဘူး ဒကာ" ဟု မိန့်တော်မူသဖြင့် "ဆရာတော့်ကျောင်း မဟုတ်လို့ ဘယ်သူ့ကျောင်းပါလဲဘုရား' ဟု ထပ်လျှောက်ပြန်ရာ "ဒကာ့ကျောင်း ပါကွာ" ဟု ပြန်လည် မိန့်တော်မူသည်။

ကပ္ပိယကြီးက မကျေနပ်နိုင်သေးသောကြောင့် "ကျောင်းဒကာက ရေစက်ချ အမှူဝေပြီး အရှင်ဘုရားကို အပ်လှူပြီးသားမို့ အရှင်ဘုရားရဲ့ ကျောင်းပေါ့ဘုရား" ဟု ထပ်ဆင့် လျှောက်ပြန်၏။

ထွင့်ခေါင်ဆရာတော်ကြီးက "ဒကာကြီးရဲ့ဘုန်းကြီးက ဒီကျောင်းတွေကို 'ငါ့ကျောင်း၊ ငါ့ကျောင်းနဲ့' စွဲလမ်းပြီး သေသွားရင် ဘယ်ရောက်မလဲ" ဟုမေးရာ ကပ္ပိယကြီးက "ပြိတ္တာဖြစ်မှာ၊ ငရဲကျမှာ ပေါ့ဘုရား" ဟု ပြန်ဖြေ၏။ ဆရာတော်ကြီးက "ကျောင်းဒကာက 'ငါ့ကျောင်း၊ ငါ့ကျောင်း၊ ငါ လှူထားတဲ့ ကျောင်း' ဆိုတဲ့ စွဲလမ်းမှုနဲ့ သေရင် ဘယ်ရောက်မှာလဲ" ဟု မေးပြန်ရာ "နတ်ပြည်ပေါ့ဘုရား" ဟု အားရဝမ်းသာ ဖြေလေ၏။

ထိုအခါ ဆရာတော်ကြီးက "ဒါကြောင့် ဒီကျောင်းတွေကို 'ငါ့ကျောင်းတွေ မဟုတ်ဘူး' လို့ ပြောနေတာပေါ့ဒကာ" ဟု အမိန့်

ရှိတော်မူသည်။

ထွင့်ခေါင်ဆရာတော်ကြီး၏ သင်္ကြာယကင်းပုံကို လယ်တီဆရာတော်ကြီးက တရားဟောရင်း ထည့်သွင်း ဟောကြားတတ်ပါသည်။

## ထွင့်ခေါင်ဆရာတော်ကြီးနှင့်
## မင်းတုန်းမင်း၊ ကနောင်မင်းသား

မင်းသားဘဝ

သာယာဝတီမင်း၏မိဖုရား သီရိသုစန္ဒမလ္လာမဟေ တောင်ဆောင်တော်၊ ကျောက်မော်မြို့စားမိဖုရားမှ ဖွားမြင်သော သားတော်နှစ်ပါးဖြစ်သည့် မင်းတုန်းမင်းသားနှင့် ကနောင်မင်းသားတို့သည် ထွင့်ခေါင်ဆရာတော်ကြီး သီတင်းသုံးရာ စစ်ကိုင်းတောင်ရိုး ဆင်မချောင်သို့ မကြာခဏ လာရောက် ဖူးမြော် ကန်တော့ကြပြီး ဩဝါဒ ခံယူကြပါသည်။

ဆရာတော်ကြီး၏ ဩဝါဒကို ခံယူပြီးနောက် ချောင်မှာပင်ညဥ့်အိပ်၊ ညဥ့်နေ ဥပုသ်သီတင်း စောင့်သုံး နေထိုင်ကြပါသည်။ ထိုသို့ နေထိုင်ခဲ့သော လှိုဏ်တစ်ခုကို ယခုတိုင် 'မင်းတုန်းလှိုဏ်' ဟု ခေါ်တွင်ပါသည်။

မင်းသားများသည် သံဃာတော်များ သီတင်းသုံးရန် ကျောင်းပရိဝုဏ်ပြုပြင်ရာ၌ ကျောက်တုံး ကျောက်ခဲများကို ကိုယ်ထိလက်ရောက် သယ်ပိုးကာ ဆင်းရဲသားများပမာ ကာယဝေယျာဝစ္စကို အားပါးတရ

ပြုကြပါသည်။ ကနောင်မင်းသားကြီးက သံဃာတော်များကို ညဥ့်ပိုင်း၌ မန်ကျည်းဖျော်ရည်များ ဆက်ကပ်လေ့ရှိပြီး ကြွင်းကျန်သော မန်ကျည်းစေ့များကို ကျောင်းနီးဝန်းကျင်၌ ကိုယ်တိုင်ကိုယ်ကျ စိုက်ပျိုးခဲ့ရာ ယခုတိုင် ကနောင်မင်းသားစိုက်ခဲ့သော မန်ကျည်းပင်များ ထင်ရှားစွာ ရှိနေပါသည်။

ဆရာတော်ကြီးက မင်းသားများကို ရဟန်းကျေးဇူးတရားများ ဟောပြောရာ မင်းသားများက အလွန်သဘောတွေ့လှ၍ "တပည့်တော်များလည်း သာနုဒ္ဒဘောင်သို့ဝင်လိုပါကြောင်း" လျှောက်ထားကြသည်ကို အနီးရှိကပ္ပိယကြီးက "တကယ်ပင် သင်္ကန်းဝတ်ပေးရအောင် သင်္ကန်းသွားယူလိုက်တော့မယ်ဘုရား၊ ပြင်လိုက်တော့မယ်ဘုရား" ဟု အရိပ် နိမိတ်တွေ လျှောက်ထားနေလေရာ ဆရာတော်ကြီးက အသာအယာ ဣန္ဒြေဆည်နေရပြီး မင်းသားများပြန်သွားမှ "ဘုန်းကြီးရှေ့မို့ အလိုက်သင့် လျှောက်ကြတာပေါ့ကွာ၊ ဘယ်မှာ တကယ် သင်္ကန်းဝတ်နိုင်ပါ့မလဲ၊ သူတို့က မင်းအဖြစ်နဲ့ သာသနာပြုဦးမယ့် သူတွေပဲကွ" ဟု မိန့်တော်မူပါသည်။

## မင်းအဖြစ်ရောက်ချိန်

မင်းတုန်းမင်းသည် ၁၂၁၄ ခု၊ တပေါင်းလဆန်း ၁၁ ရက်၊ သောကြာနေ့နံနက် တစ်ချက်တီးအချိန်တွင် ပုဂံမင်းထံမှ ထီးနန်းကို ရယူတော်မူသည်။

၁၂၁၄ ခု၊ တန်ခူးလပြည့်ကျော် ၃ ရက်နေ့ည နှစ်ချက်တီးကျော် လေးနာရီအချိန်တွင် စကြာဒေဝီ၊ ဆင်ဖြူမရှင်၊ မင်္ဂလာဒေဝီ၊

သုစန္ဒာဒေဝီတို့ကို မိဖုရားအသီးသီးတင်မြှောက်၍ ရွှေဘိုမြို့တွင်ပင် ရာဇဘိသိက် ခံတော်မူ၏။ ၁၂၁၅ ခု၊ တန်ဆောင်မုန်းလပြည့်ကျော် ၅ ရက်နေ့၊ နံနက် လေးချက်တီးကျော် ၆ မောင်းအချိန်တွင် ပြည်ကြီးမှန်ဖောင်တော်ဖြင့် ရောဝတီမြစ်ကြောင်းမှစုန်ကာ အမရပူရ ရွှေနန်းတော်သို့ ပြောင်းရွှေ့သည်။

အမရပူရသို့ရောက်ပြီးနောက် ၁၂၁၅ ခု၊ နတ်တော်လဆန်း ရှစ်ရက်နေ့၊ တစ်ဆယ့်ငါးရက် နေ့များတွင် မင်းတုန်းမင်းက သံဃာတော် ရှစ်ပါးကိုပင့်၍ ဥပုသ် ယူတော်မူပါသည်။

ဒုတိယရာဇဝင်တော်ကြီးတွင် "စစ်ကိုင်းတောရ ရတနာထွင့်ခေါင် ဆရာတော်ကိုလည်း မြောက်ဥယျာဉ်တော်အတွင်း စံနန်းတော်သို့ ပင့်၍ နေ့ဆွမ်းလုပ်ကျွေးပြီးလျှင် သင်္ကန်းလျာပိတ်အုပ်၊ လှူဖွယ် ဝတ္ထုများကို လှူတော်မူ၏" ဟု ထွင့်ခေါင်ဆရာတော်ကြီးကို သီးခြားပင့်၍ အလေးဂရုပြုကာ လှူတော်မူပုံကို မှတ်တမ်းတင်ထား ပါသည်။

## အလေးဂရုပြုပုံ

မင်းတုန်းမင်းကြီးသည် ဆရာတော်ကို မင်းသားဘဝမှပင် ကိုးကွယ်ခဲ့သော ဆရာတော် ဖြစ်သည်နှင့်အညီ ညီလာခံသို့ တက်ရောက်လာကြသော မင်းမှူးမတ်တို့အား "ထွင့်ခေါင်ဆရာတော်ကြီး ထံသို့ ရောက်ကြရဲ့လား" ဟု မေးလေ့ရှိသောကြောင့် မင်းမှူးမတ်များ ထွင့်ခေါင်ဆရာတော်ထံပါးသို့ အရောက်အပေါက်များပြီး ကိုးကွယ် ကြသည်။

ရွှေနန်းတော်ကို ရတနာပုံမန္တလေးမြို့သို့ ပြောင်းရွှေ့သောအခါ တွင် မင်းရေးကိစ္စများ များပြားသဖြင့် ခြေတော်ရင်းသို့ မရောက်နိုင် ရှိ၍ ဆရာတော်ကြီးအား ရွှေနန်းတော်သို့ တစ်လတစ်ခေါက် အဖူး အမြော် အကန်တော့ခံ ကြွပါရန် အမြဲ ပင့်ဆောင်ထားလေသည်။

## အနောက်ဆောင်သို့

မိဖုရားများ နေထိုင်ရာ အနောက်ဆောင်သို့ ယောကျ်ားများ ဝင်ထွက် သွားလာခွင့် မရှိပေ။ ဝင်ထွက်ပါကလည်း ပြင်းထန်စွာ အရေးယူ အပြစ်ပေးလေ့ ရှိသည်။

သို့ရာတွင် ထွင့်ခေါင်ဆရာတော်ကြီးကား အနောက်ဆောင်သို့ အလိုရှိက ဝင်ထွက်သွားလာခွင့် ရ၏။ တစ်ခါသော် ကပ္ပိယ 'ဦးရွှေရင်း' ကို ခေါ်ကာ အနောက်ဆောင် အနံ့အစပ်ဝင်၍ "ဟယ် – ဒီကျေးတော သားကြီးက ဘယ်တော့မှ နန်းတော်များ မရောက်ဘူး၊ မမြင်ဘူးရှာဘူး၊ လူရိုင်း တောသားကြီး ဝင်ပါစေ၊ ထွက်ပါစေ၊ သွားပါစေ။ ရှင်ဘုရင်များ မိဖုရားများ နေတဲ့နေရာကို မြင်ချင်လွန်းလို့ဟဲ့" ဟု မိန့်တော်မူ သဖြင့် မည်သူကမျှ တားဆီးခြင်း မပြုကြပါ။

မိဖုရားများကလည်း "ကပ္ပိယကြီး၊ အလိုရှိရာ တောင်းပါ" ဟု ပြောဆိုပြီး ဆုလာဘ်များ ပေးကြသဖြင့် ဦးရွှေရင်းမှာ အပြန်၌ တစ်ထမ်းကြီး ထမ်းကာ ပြန်ခဲ့ရသည် ဆို၏။

## ဣန္ဒြိယသံဝရသီလ

ထွင့်ခေါင်ဆရာတော်ကြီးက ကပ္ပိယကြီးကို မိဖုရားဆောင်များ တွင် လှည့်လည် ပြသသော်လည်း ဣန္ဒြိယသံဝရသီလကို စောင့်ထိန်း

တော်မူ၏။

နန်းတော်သို့ တစ်လတစ်ခေါက် အမြဲမပြတ် ကြွရောက်ရသော်လည်း ဆရာတော်ကြီးက ဣန္ဒြေကို စောင့်စည်းတော်မူသဖြင့် ဘုရင်နှင့် "မိဖုရားမျက်နှာကို မမြင်စဖူး၊ ဦးချသည့်အခါ ရှေ့သို့ ရောက်လာသော လက်များကိုသာ မြင်ခဲ့ရသည်" ဟု အမိန့်ရှိဘူးပါသည်။ 

## ကြောက်တတ်သူ

မင်းတုန်းမင်းသားနှင့် ကနောင်မင်းသားတို့ ဆင်မချောင်သို့ မကြာခဏ လာကြသည်တွင် တစ်နေ့၌ ဆရာတော်ကြီး ဆွမ်းခံကြွခိုက် ဘိုးသူတော် 'ပုည' ကိုတွေ့ရာ ဘိုးသူတော်မှာလည်း တစ်ဦးတည်း ဖြစ်သဖြင့် မင်းသားများက သနားသောကြောင့် "မကြောက်ဘူးလား" ဟု မေးကြရာ၊ ဘိုးသူတော်ပုညက "ကြောက်လို့ပဲ နေရပါသည်" ဟု ပြန်ဖြေ၏။

မင်းသား ။ ။ ဘာကြောက်တာလဲ သူတော်ကလေး။

သူတော် ။ ။ ကြွေးကြောက်ပါတယ် ဒကာများ။

မင်းသား ။ ။ "သူတော်မှာ ကြွေးတွေ ဘယ်လောက်ရှိနေသလဲ၊ ကျုပ်တို့က မင်းသားတွေပါ၊ ဆပ်ပေးနိုင်ပါတယ်။ သူတော်က ငယ်ငယ်လေးရှိသေး ကြွေးရှိသလား၊ ပြောပါဦး။"

သူတော် ။ ။ "ကိုယ့်ကြွေး ကိုယ်ပဲ ကျေအောင် ဆပ်ကြပါဦးဗျာ။"

မင်းသား ။ ။ "ကျုပ်တို့မှာ ဘာကြွေးရှိလို့လဲ သူတော်လေးရဲ့။"
သူတော် ။ ။ "သေကြွေးတွေက အများကြီး ရှိသေးတယ်။"

မင်းသားတွေမှာ စစ်ကိုင်းချောင်က ပြန်သွားပြီးကတည်းက သူတော်ကလေး ပြောလိုက်သော သေကြွေးတွေကျေအောင် ဆပ်ဖို့ အရေးကို စိတ်၌ စွဲမြဲမှတ်ထင် သွားကြတော့၏။

မင်းတုန်းမင်း အထွဋ်အထိပ်သို့ရောက်သောအခါ သူတော်ကလေး ပုညကို အမှတ်ရပြီး ချီးမြှောက်လိုသောကြောင့် မင်းချင်းများကို စစ်ကိုင်းဘက်သို့စေလွှတ်ကာ သူတော်ကလေးကို နန်းတော်သို့ ခေါ်ဆောင်စေပါသည်။

မင်းချင်းများရောက်သောအခါ သူတော်ကလေးမှာ တစ်ဘဝတာ သေကြွေးကို ဆပ်နှင့်ပြီး ဖြစ်နေသောကြောင့် မတွေ့ရတော့ပေ။

## တံဆိပ်တော် အလိုမရှိ

တစ်ခါသော် ထွင့်ခေါင်ဆရာတော်ကြီးကို တံဆိပ်တော်လှူလိုပါကြောင်းနှင့် ချီးမြှောက်ရန်အတွက် ဆွေမျိုးဉာတိထဲမှ သင့်တော်သူ တစ်ယောက်ကို အမိန့်ရှိဖို့ မင်းတရားကြီးက လျှောက်ထားပါသည်။

ဆရာတော်ကြီးက "တံဆိပ်တော်ကို ငါအလိုမရှိပြီ။ တံဆိပ် (သံတုံး) ဟာ တောထဲမှာ ဘာမှ အသုံးမကျပါဘူး။ ငါပျံတော်မူတဲ့ အခါ တံဆိပ်တုံးကို အလောင်းဘေးမှာထားကြမှာကိုလည်း တွေးလို့ ရှက်လှတယ်။ လှူချင်သပဆိုရင် တောထဲမှာအသုံးဝင်မယ့် ထင်းခုတ် ဓားမသာ လှူပါ" လို့ အမိန့်ရှိလိုက်တယ်။

"ချီးမြှောက်စရာ ဆွေမျိုးထဲက လူပေးရမယ့် ကိစ္စကိုလည်း ရေမြွေရှင် – လောကမှာ လူရိုးဆိုတာ သင်္ချိုင်းမှာသာ ရှိပါတယ်"

ဟု အမိန့်ရှိလိုက်သည်။

မင်းက ထိုသို့လျှောက်ထားနေစဉ်တွင် မြေးတော်သော တတိယ ထွင့်ခေါင်ဆရာတော်၏ခမည်းတော် 'ဦးဖေ' လည်း အနားတွင်ရှိပါ သည်။ ဦးဖေကို ချီးမြှောက်ရန် အပ်နှံပါက ဖြစ်ပါလျက် ငြင်းပယ်ခဲ့ ခြင်း ဖြစ်သည်။

နောင်အခါတွင် ဆရာတော်က ဦးဖေအား "မောင်ဖေ၊ မင်း ကတော့ ငါပြောတာကို စိတ်ဆိုးမှာပဲနော်" ဟု အမိန့်ရှိရာ ဦးဖေက "မဆိုးပါဘူးဘုရား၊ တိုးလို့သာ ကြည်ညိုပါသည်" ဟု လျှောက်ထား လိုက်သည်။

လွတ်စေ

ထွင့်ခေါင်ဆရာတော်ကြီးက ကျောင်းကိုလာသမျှ ဒကာ-ဒကာမ များကို သံသရာလွတ်ကြောင်းတရားတော်များ ချီးမြှင့်၍ သဒ္ဓါသန်ကာ ရဟန်းပြုလာကြသူများတွင် လူပေါင်းစုံ၊ အရွယ်ပေါင်းစုံ ပါရှိပါသည်။ များသောအားဖြင့် သက်တော် ကြီးကြသည်က များပါသည်။

ဆရာတော်ကြီးက လူကြီးများနှင့်သင့်လျော်ရာ ဝတ်ရွတ်စဉ်ကို စီစဉ်ပေး၍ နေ့စဉ်မှန်မှန် ဝတ်တက်စေပြီး ဝတ်ရွတ်စဉ်ထဲတွင် ပါတိမောက်၊ ကမ္မဝါ၊ သတိပဋ္ဌာန်၊ ဓမ္မစကြာ၊ အနတ္တလက္ခဏာသုတ် စသည်တို့ပါရှိသဖြင့် အထူးတလည် ကျက်မှတ်နေဖို့မလိုပဲ နှုတ်တက် ဆောင်နိုင်ကြသည်ချည်းသာ ဖြစ်ပါသည်။

တစ်ခါသော် ပဉ္စမသင်္ဂါယနာတင် မင်းတရားကြီးလက်ထက် တော်၌ သာသနာပိုင်ဆရာတော်ကြီးက "ရဟန်းဖြစ်ပါက ပါတိမောက်၊

သာမဏေဖြစ်က ရှင်ကျင့်ဝတ် ရကြရမည်” ဆိုကာ ပင့်လျှောက် စစ်ဆေး၏။

ထွင့်ခေါင်ဆရာတော်ကြီး၏ တပည့်များကိုလည်း စစ်ဆေးမည် ပင့်လျှောက်၍ ကြွရသည်။

အခြားဂိုဏ်းက သံဃာတော်များကို စစ်ဆေးပြီးနောက် ထွင့်ခေါင် ဆရာတော်၏ တပည့်များအလှည့်ကို ရောက်သောအခါ ထွင့်ခေါင် ဆရာတော်ကြီးက “တပည့်တော်၏တပည့်များသည် ကြီးမှရဟန်းဖြစ် သည့် တပည့်များလည်း ဖြစ်ပါသည်။ ရှင်ဘုရင်က အလေးပြုသော ဆရာ၏ တပည့်များလည်း ဖြစ်ပါသည်။ အခြားပုဂ္ဂိုလ်များက ‘ထွင့်ခေါင် တပည့်များမို့ တော်သလို စစ်ဆေးသည်’ ဟူ၍ ကဲ့ရဲ့ကြပါလိမ့်မည်။ သို့ဖြစ်၍ သေသေချာချာ စစ်ဆေးပါ။ တစ်ပါးချင်း စစ်ဆေးပါ။ ပါတိမောက်၊ ရှင်ကျင့်ဝတ်ကို တစ်ပါးချင်း ပြန်ပါစေ” ဟု မိမိ တပည့်များ အတွက် ယုံကြည် စိတ်ချစွာပင် ရဲဝံ့စွာ လျှောက်ထား၏။

တစ်ပါးချင်း ပြန်ဆိုစေရန် အမိန့်ရှိသည့်အတိုင်း စတင် ပြန်ဆိုသည်။ ရဟန်းတော်များမှာ သက်တော်ကလည်းကြီး၍ ချောင်မှာ ဝတ်ရွတ်သည့်အတိုင်း “သမ္ဗုဒ္ဓနီ ပဒီပေါ စ ..... ဥဒကံ အာသနေန စ ......’ စသည်ဖြင့် တစ်ပိုဒ်ချင်း ဖြည်းဖြည်းလေးလေး ရွတ်ဆိုနေ ကြရာ တပည့် ၅၀၀ ကျော် ပြီးဖို့ပင် ခဲယဉ်းနေတော့သည်။

ထိုအခါ စာစစ် စာမေး သံဃာတော်နှင့် သာသနာပိုင်ဆရာတော် ကြီးက “ဆရာတော်ကြီးတပည့်များအတွက် ယုံကြည်ပါပြီဘုရား၊ အလိုရှိသလို ချမ်းသာစွာ နေတော်မူပါဘုရား” ဟု လျှောက်ထားရ လေ၏။

ထိုအကြောင်းကို မင်းတုန်းမင်းကြီး သိကြားသောအခါ ထွင့်ခေါင်ဆရာတော်အား မည်သည့်ဂိုဏ်းဂဏကမျှ အဆင့်အဆို မရှိစေရန် သာသနာပိုင်ကိုလျှောက်ကြား၍ "ဂဏဝိမုတ်" ပေးတော်မူ၏။

## ညတွင်းချင်း ဆွမ်းလောင်းပွဲ

တစ်နေ့ နေဝင်လုနီးတွင် ဆရာတော်ကြီးက ကပ္ပိယ 'ဦးရွှေရင်း' ကို ခေါ်တော်မူပြီး "နောက်နေ့ နံနက်တွင် သံဃာ အပါး ၃၀၀ ကို သပိတ်စုံ၊ အိတ်စုံ၊ အုန်း၊ ငှက်ပျော အစုံနှင့် ဆွမ်းလောင်းလိုသည်" ဟု အမိန့်ရှိတော်မူ၏။

ဦးရွှေရင်းလည်း ခိုတောင်ကူးတို့နှင့် မန္တလေးမြို့ဘက်သို့ကူးပြီး ဦးစွာတွေ့သော မင်းကြီးအိမ်တစ်အိမ်သို့ဝင်သည်။ စာရေးတော်ကြီးအိမ် ဖြစ်နေပြီး ဆရာတော်ကြီး၏ဆန္ဒကိုပြောပြရာ စာရေးတော်ကြီးလည်း ဝမ်းမြောက် ဝမ်းသာဖြစ်ကာ "သံဃာတော် ၃၀၀ မကပါ၊ ၅၀၀ ပင် လောင်းလှူပါမည်" ဟု အာမခံပြီး ချက်ပြုတ်ရန် လူများကို ရုတ်ခြည်း စီမံခေါ်ယူ၍ မြစ်ကိုကူးခဲ့ရာ သန်းခေါင်ကျော်၌ ခမ္မိကချောင်သို့ ရောက်ကြ၏။

ရောက်လျှင်ရောက်ချင်းချက်ပြုတ်ကာ နံနက်တွင် သံဃာတော် ၅၀၀ ကို ဆွမ်းလောင်းလှူကြသည်။ ဆွမ်းလောင်းသည့်အခါတွင် ဆရာတော်ကြီးက အနီးမှကိုယ်တိုင် ကြည့်ရှုကြည်ညို ဝမ်းမြောက်လျက် နေတော်မူသည်။

စာရေးတော်ကြီးကလည်း သဒ္ဓါတရား ထက်သန်စွာဖြင့် သူတော်ငယ်၊ သာမဏေငယ်ကလေးများကိုပင် မဆုံမပြေ သပိတ်ကွဲ

လောက်အောင် အလှူပယ် လောင်းလှူသည်။ သံဃာ ၅၀၀ ကို သပိတ်စုံ၊ အိတ်စုံ၊ အုန်းငှက်ပျော ဟင်းလျာအစုံနှင့် လောင်းလှူကာ ရေစက်ချ အမျှအတန်း ပေးဝေနေရသဖြင့် စာရေးတော်ကြီးမှာ မင်းတရားကြီးထံမှောက် ညီလာခံ ဝင်ရောက်ဖို့ ပျက်ကွက်လေ၏။

နောက်တစ်ရက်ညီလာခံတွင် အခစားဝင်မှ မင်းတရားကြီးက အခစားပျက်သည့်ကိစ္စ မေးမြန်းတော်မူရာ ထွင့်ခေါင်ဆရာတော်ကြီး၏ ဆန္ဒနှင့်အညီ ဆွမ်းလောင်းလှူနေရသဖြင့် အခစားပျက်ရကြောင်း သံတော်ဦးတင်လေရာ မင်းကြီးက "မောင်မင်းက ကံကောင်းပါပေသည်၊ ဆရာတော်ကြီးက ငါကိုယ်တော်မြတ်ထံပင် အလှူမခံ၊ မောင်မင်းထံ မှသာ အလှူခံတော်မူသည်" ဟု ဝမ်းမြောက်နှမော်သာစုခေါ်ပြီး သံဃာ ၃၀၀ အတွက် ငွေ ၃ ထောင် ကုသိုလ်ဝင်ပါရစေ မိန့်ဆိုပြီး ငွေ ၃ ထောင် ပေးတော်မူ၏။

## ထွင့်ခေါင်ဆရာတော်ကြီးက ဆုံးမခြင်း

### ကျောက်ခဲနှင့်ပေါင်းရစ်တော့

မတ္တရာဝန်ကတော်ကြီးသည် ဆရာတော်ကြီးထံသို့ မကြာမကြာ လာရောက်ဖူးမြော်၍ အဆုံးအမကို နာခံလေ့ ရှိ၏။ တစ်နေ့သော် ဝန်ကတော်ကြီးက "တပည့်တော်မ ယခုပစ္စက္ခရော တမလွန်ဘဝပါ ချမ်းသာလိုပါသည်ဘုရား" ဟု လျှောက်ထားရာ၊ ဆရာတော်ကြီးက "ဒကာမကြီး၊ ချမ်းသာချင်ရင် ကျောက်ခဲနှင့် ပေါင်းရစ်၊ သစ်ပင်နဲ့ ပေါင်းရစ်" ဟု အမိန့်ရှိလိုက်သည်။

ထိုသို့ဆုံးမလိုက်ခြင်းကို ဝန်ကတော်ကြီးက အလွန်သဘောကျလှပြီး ဝန်ကြီးမရှိလျှင် တောထွက်၍ သီလရှင် ဝတ်တော့မည်ဟု စိတ်ပိုင်းဖြတ်ထားလေ၏။

ဝန်ကြီးကွယ်လွန်သောအခါ ကွယ်လွန်လျှင်လွန်ချင်း ဝန်ကတော်ကြီးက အခန်းတွင်းသို့ဝင်ကာ ဆံပင်ကို ဖြတ်လှီးပစ်လိုက်လေတော့သည်။ ထိုအခြင်းအရာကို မြင်တွေ့ကြသူများက ဝန်ကတော်ကြီး ရူးသွပ်ချေပြီလားဟုထင်မှတ်၍ မျက်စိမျက်နှာပျက်ကြ၏။ ထိုအခါ ဝန်ကတော်ကြီးက "မစိုးရိမ်ကြပါနဲ့၊ စိတ်နှလုံးဖောက်ပြန်သွားတာ မဟုတ်ပါဘူး၊ ထွင့်ခေါင်ဆရာတော်ကြီးရဲ့ တရားကိုနာပြီးကတည်းက သီလရှင်ဝတ်မယ်ဆိုတဲ့ ဆုံးဖြတ်ချက်ရှိတာ၊ စိတ်လည်သွားမှာစိုးလို့ အခုလို ပြုလုပ်တာဖြစ်ပါတယ်" လို့ ပြောပြပြီး ဝန်ကြီး၏အသုဘကိစ္စကို ဆက်လက်ဆောင်ရွက်စေသည်။

ဈာပနကိစ္စကို အေးဆေးစွာ ဆောင်ရွက်ပြီးချိန်မှစကာ သီလရှင်ပြု၍ တောထွက်ခဲ့ပါသည်။ နောင်တွင် သီးခြားချောင်တည်သဖြင့် 'မတ္တရာ ဝန်ကတော်ကြီးချောင်' ဟု ယခုတိုင် ထင်ရှားစွာ တည်ရှိပါသည်။

## ကန်ကြီး ကောင်းလိုက်ပုံကတော့

အုတ်ပြာသာဒ်အမ၊ သာယာဝတီမင်း၏ မိဖုရားခေါင်ကြီး သီရိပဝရတိလောက မဟာရတနာပဒုမ္မာဒေဝီကို ဆရာတော်ကြီးက "ဒကာမကြီး ကံကောင်းတယ်နော်၊ မိဖုရားခေါင်ကြီးလည်း ဖြစ်ခဲ့ရတယ်။ ဘုရင် (ပုဂံမင်း) မယ်တော်လည်း ဖြစ်ခဲ့ရတယ်။ ဘုရင့်

ယောက္ခမလည်း ဖြစ်ရတယ်။ (စကြာဒေဝီ၏မယ်တော်၊ မင်းတုန်းမင်း၏ ယောက္ခမ) အလွန် ကံကောင်းပေတာပဲ။ ကံကောင်းလိုက်ပုံကတော့ ကြက်ထောင့်ကန်ကြီးလိုကောင်းတယ်" ဟု အမိန့်ရှိသည်။

ကြက်ထောင့်ကန်ဆိုသည်မှာ ဘိုးတော်ဦးဝိုင်း၏ ကုသိုလ်တော်ကြီးလေးကြီးတွင် ပါဝင်ပြီး အမြင်မှာ လွန်စွာ ကြီးမားသားနား၍ အံ့မခန်း ကောင်းသည်ဟု ချီးမွမ်းရသည့်ကန်ကြီး ဖြစ်ပါသည်။ ကန်ကြီးမှာ မြစ်နှင့်အလွန်နီးနေသဖြင့် ကန်ရေကို လူတို့က ဂရုမပြုကြ၊ အသုံးမရှိ အဖိုးမတန် ဖြစ်နေပါသည်။

မိဖုရားခေါင်ကြီးကိုလည်း ကံသာကောင်းပြီး ဘာမျှအကျိုးမရှိ၊ သတိတရားထား၍ ပစ္စုပ္ပန်၊ တမလွန်အကျိုးများအောင် နေတတ်စေရေးအတွက် ဆုံးမတော်မူခြင်း ဖြစ်ပါသည်။

မညှဉ်းဆဲနဲ့

ခမ္မိကချောင်ရှိ ရုပ်စုံဇရပ်ကြီးအနီးတွင် သိမ်ဆောက်လုပ်လှူဒါန်းထားရှိသော သိမ်ဒကာကြီး 'ဦးဖိုးညွန့်' ကို ထွင့်ခေါင်ဆရာတော်ကြီးက "သူတစ်ပါးကို ကိုယ်ဖြင့်လည်း မညှဉ်းဆဲ၊ နှုတ်အားဖြင့်လည်း မညှဉ်းဆဲနှင့်" ဟု ဆုံးမတော်မူသည်။

သိမ်ဒကာကြီးကလည်း ဆရာတော်ကြီးက ဆုံးမတော်မူသည့် အချိန်ကစပြီး သူတစ်ပါးကို မဆိုထားနှင့် သား၊ သမီး၊ မြေးကအစ အိမ်တွင်ရှိသည့် အစေအပါး ခွေးအထိ အော်ငေါက် ရိုက်နှက်ခြင်း မပြုတော့ပေ။ စိတ်အလိုက် အော်မိ ငေါက်မိ သွားပါက မည်သူ့ကိုမဆို တောင်းပန်၏။

ထွင့်ခေါင်ဆရာတော်ကြီးကို လွန်စွာကြည်ညိုသဖြင့် ကျေးဇူးရှင်ဆရာတော်က ဘယ်လို အမိန့်ရှိတယ်ဟု နှုတ်က ချသည် မရှိပေ။ မန္တလေးမြို့ ဂုဏ်တန်ရပ်၌ နေထိုင်ရာမှ သီပေါမင်း ပါတော်မမူမီမှာပင် ရန်ကုန်မြို့သို့ ပြောင်းရွှေ့သွားသည်။ သို့ရာတွင် သိမ်ဒကာကြီးသည် ထွင့်ခေါင်ဆရာတော်ကြီး မရှိသည့်နောက်ပိုင်းတွင်လည်း သက်ရှိ ထင်ရှားရှိနေသမျှ ခမ္မိကချောင်သို့ နှစ်စဉ် လာရောက်ပြီး သိမ်ဘုရားပွဲလုပ်ကာ ကထိန်ခင်း၊ ရဟန်းတစ်ပါးကျ ရဟန်းခံလေ့ရှိပါသည်။ ယင်းသို့ပြုလုပ်သည်မှာ တတိယဆရာတော်လက်ထက်အထိပင် ဖြစ်သည်။

## ဒုတ်စောင့်တဲ့ သာသနာ

ဒုတိယထွင့်ခေါင်ဆရာတော်လောင်းလျာဖြစ်သော ကောင်းမှုတော် တောရကျောင်းဆရာတော်သည် ထွင့်ခေါင်ဆရာတော်ကြီးရှိရာ ခမ္မိကချောင်သို့ ရံဖန်ရံခါသွားရောက်၍ ကန်တော့လေ့ရှိ၏။ ကိုယ်တိုင်မသွားရောက်နိုင်သည့်အခါများတွင် ကျောင်းသားနှင့် သာမဏေများကို စေလွှတ်၍ ကန်တော့စေလေ့ ရှိသည်။

လာရောက်ကန်တော့ကြသော ကျောင်းသားငယ်၊ ရှင်ငယ်တို့ကို ထွင့်ခေါင်ဆရာတော်ကြီးက ထိုထိုဤဤ မေးမြန်းလေ့ရှိရာ ကျောင်းသား၊ ကိုရင်ငယ်လေးများက သူတို့ဘုန်းကြီး ရိုက်တတ်ကြောင်း လျှောက်ထားကြရာ ဆရာတော်ကြီးက "အေးကွာ၊ မင်းတို့သာသနာက ဒုတ်စောင့်တဲ့ သာသနာကိုးကွ" ဟု ရယ်ရယ်မောမော မိန့်တော်မူ၏။

ကိုရင်ငယ်နှင့် ကျောင်းသားငယ်များအား "မင်းတို့ဘုန်းကြီးကို လျှောက်လိုက်ကြ၊ ကျောင်းသား၊ ကိုရင်တွေကို တယ်ရိုက်တယ်လို့ ဆရာတော်ကြားတယ်၊ လျှောက်ဝံ့ရဲ့လား" ဟုမေး၏။

ကျောင်းသား ကိုရင်တို့လည်း ဆရာတော်ကြီး မိန့်မှာသည့် အတိုင်း လျှောက်ကြားကြရာ ကောင်းမှုတော် တောရကျောင်း ဆရာတော် (နောင် ဒုတိယထွင့်ခေါင်ဆရာတော်) 'ဦးဇိနဝံသ' သည် ကျောင်းသား၊ သာမဏေတွေကို ရိုက်နှက် ဆုံးမဖို့ မလိုကြောင်း၊ မရိုက် မနှက်စေလိုကြောင်း သဘောပေါက်တော်မူသဖြင့် ထိုအချိန်မှ စပြီး အေးအေးသာသာ ဆုံးမ ပြောဆိုလေတော့၏။

## ဆရာတော်ကြီးက လက်သီးနဲ့ထိုးခြင်း

မန္တလေးနန်းတွင်းတွင် 'ဖာမီ' အမည်ရှိ အင်္ဂလိပ်ဆရာဝန်ကြီး တစ်ဦး ရှိသည်။ ထိုဆရာဝန်ကြီးမှာ ထွင့်ခေါင်ဆရာတော်ကြီးကို အလွန်ကြည်ညိုသဖြင့် ခမ္မိကချောင်တွင် ကျောင်းဆောက်လှူဒါန်း ကိုးကွယ်သည်။

ဆရာဝန်ကြီးက လက်ဝှေ့ ဝါသနာပါသူဖြစ်၍ လက်ဝှေ့ပွဲ၊ လက်သီးထိုးပွဲများကို မကြာမကြာ ပြုလုပ် ကြည့်ရှုလေ့ရှိပါသည်။

ထွင့်ခေါင်ဆရာတော်ကြီးကိုလည်း မကြာခဏ လာရောက် ဖူးမြော်၍ အဆုံးအမ ခံယူလေ့ရှိပါသည်။ တစ်နေ့သော် ဆရာဝန်ကြီး လာရောက်ဖူးမြော်စဉ် တရားစကားများ ဆွေးနွေးပြောဆိုပြီးနောက် ဆုံးမလိုသဖြင့် ဆရာဝန်၏နဖူးကို ဆရာတော်က လက်သီးဖြင့် ခတ်ဆတ်ဆတ် ထိုးလိုက်သည်။

ဆရာဝန်ကြီးခမျာ ငေးကြောင်သွားကာ နဖူးကိုလက်ဖြင့် ပွတ်လျက် ဆရာတော်ကြီးကို ငေးကြည့်နေမိတော့သည်။ "နာသလား" ဟု မေးလိုက်ရာ "မှန်လှပါ၊ နာပါသည်ဘုရား" ဟု လျှောက်ထား သဖြင့် "အဲဒါပဲ သိတော့၊ ဒါလောက်ကလေးထိတာတောင် နာသေး တာပဲ၊ တစ်ယောက်နဲ့တစ်ယောက် အနိုင်ယူပြီး ထိုးကြသတ်ကြတဲ့ လက်ဝှေ့သမားများရဲ့ လက်သီးပြင်းပြင်းတွေဆိုရင် ဘယ်လောက် နာရှာကြမလဲ၊ စဉ်းစားသာကြည့်တော့" ဟု အမိန့်ရှိရာ ဆရာဝန်ကြီး က "တပည့်တော် သဘောပေါက်ပါပြီဘုရား၊ နောင်ကို ဘယ်အခါမှ လက်ဝှေ့ထိုးမခိုင်းတော့ပါဘူးဘုရား" ဟု လျှောက်ထား သည်။

ဆရာတော်ကြီးက သူတစ်းပါး ဆင်းရဲဒုက္ခရောက်မည့်အလုပ်ကို မလုပ်ရန် ဆုံးမဩဝါဒပေးတော်မူပြီး၊ ဆရာဝန်ကြီးကလည်း သေတပန် သက်တစ်ဆုံး ဆရာတော်ကြီးကို ကိုးကွယ် ဆည်းကပ်နေပါသည်။

## ဖင်နေရာက ကျွေးလိမ့်မယ်

သီလရှင်ကြီးမယ်ဥတ္တရာမှာ ဆရာတော်ကြီးကို အလွန်ကြည်ညို လေးစားပြီး အားကိုးအားထားလည်းပြုသည်။ ထွင့်ရှုံခေါင်ဆရာတော် ကြီး၏ ဓမ္မိကချောင်သည် လူသူနှင့် ဝေးလံသောကြောင့် "ဆရာတော် ဘုရား၊ ဤဓမ္မိကချောင်ကြီးသည် တောနက်ကြီးထဲမှာ လူသူက ဝေးပါတယ်။ ဆရာတော်ကြီးမရှိလျှင် နောင်ဆက်ခံမည့်သူတွေ နေနိုင် ကြဖို့ ခဲယဉ်းပါလိမ့်မယ်ဘုရား" ဟု ပူပူပင်ပင် လျှောက်ထားသည်။

ဆရာတော်ကြီးက တပည့်မယ်ဥတ္တရာကို ခပ်ကြမ်းကြမ်းပင် "ဟဲ့–မယ်ဥတ္တရာ၊ ဘာကိုမှ ပူစရာမရှိ၊ ကောင်းကောင်းနေဖို့သာ

အရေးကြီးသည်။ ငါ့ဖင်နေရာက ကျွေးလိမ့်မယ်” ဟု နောင်လာ နောင်သားများ ကောင်းမွန်စွာ နေထိုင်ကျင့်ကြံပါက ဆွမ်းကွမ်းကိစ္စ ပူပင်ရန် မလိုကြပုံကို ဆုံးမတော်မူသည်။

## ကယ်တင်တော်မူခဲ့ခြင်းများ

ထွင့်ခေါင်ဆရာတော်ကြီးမှာ နန်းမတော်မယ်နုက ရဟန်းအမ ပြုထားသူဖြစ်ပြီး နန်းတွင်းသို့ အချိန်မရွေး ကြွရောက်သွားလာ နိုင်ခွင့်လည်း ရှိပါသည်။ မင်းတုန်းမင်း၊ ကနောင်မင်းသားတို့က မင်းသားဘဝကပင် ဆည်းကပ်ကိုးကွယ်ခြင်းခံရသူ ဖြစ်သည့်နှင့်အညီ နန်းတော်တွင်းက ခန့်ညားရိုသေခြင်းကို ခံယူရပါသည်။

မင်းပြစ်မင်းဒဏ်သင့်သူများက ဆရာတော်၏ အရိပ်အာဝါသကို ပြေးဝင်ခိုလှုံကြပြီး ပြစ်ဒဏ်ကလွတ်ရာလွတ်ကြောင်း ကယ်တင်ပေး ပါရန် လျှောက်ထားကြပြီး ဆရာတော်ကြီးကလည်း ကယ်တင်တော် မူသဖြင့် လွတ်မြောက်ခဲ့ကြပါသည်။

### ရန်အောင်မြင် ဝန်ထောက်

ဘဝရှင်မင်းတရားကြီး လက်ထက်တော်၌ ရန်အောင်မြင် ဝန်ထောက်သည် အရက်မှုနှင့်ပြစ်ဒဏ်ရှိရာ ထွင့်ခေါင်ဆရာတော်ကြီး ၏ ခြေတော်ရင်းသို့ ပြေးဝင်လာရောက် ခိုလှုံ၏။

ဆရာတော်ကြီးကလည်း ဆိုဆုံးမပြီး ၃ လခန့်မျှ ဉပုသ်သီတင်း ဆောက်တည်စေသည်။ ၃ လကျော်လွန်သောအခါ မင်းကြီးကို

"ဒကာတော်ရေမြေ့ရှင်၊ ရန်အောင်မြင်ဝန်ထောက်မှာ ငါ့ဆရာဆုံးမ၍ ယဉ်ကျေးပါပြီ" ဟု အမိန့်ရှိသဖြင့် မင်းတရားကြီးက ပြန်လည် ခေါ်ယူကာ ချီးမြှင့်မြဲ ရာထူးအတိုင်း ပေးအပ် ချီးမြှင့်တော်မူသည်။

ရန်အောင်မြင်ဝန်ထောက်လည်း ဆရာတော့်ကျေးဇူးတရားကို သိမြင်လေးစားကာ ဆရာတပည့်ရင်းဖြစ်သွားပြီး ခမ္မိကချောင်တွင် ဉာဏ်တော် ၅ တောင် ၂ မိုက်ရှိ စကျင်ကျောက်ဆင်းတုတော် ကြီးကို စိန်တောင်ခံထားသော သမန်တလင်း၌ စံကျောင်းတော် တန်ဆောင်းပြာသာဒ်ကြီး ဆောက်လုပ်လှူဒါန်းကိုးကွယ်ထားပါသည်။

## ကျောက်ဆောက်မင်းသား

တစ်ခါ၌ ကျောက်ဆောက်မင်းသား ရာဇဝတ်သင့်၍ ကျဉ်းတိုက် သွင်းထားရာ မင်းသား၏ကြင်ရာတော် ယင်းတော်မလေးက ဆရာတော်ကြီး ဆွမ်းဘုဉ်းပေးရာသို့ လာရောက်ငိုယိုကာ လျှောက်ထား သဖြင့် ဆရာတော်ကြီးက နုတ်ယူ လွတ်မြောက်စေပါသည်။

တစ်ခါတွင်လည်း ရာဇဝတ်မှုမကင်းသူအချို့ ခမ္မိကချောင်၌ လာရောက် ကပ်ခိုနေကြရာ သံတော်ဆင့်မင်းကိုယ်တိုင် ဝင်ရောက် ဖမ်းဆီး၏။ ရဟန်းများနှင့် အလုအယက်ဖြစ်ပြီး ရဟန်းများက သံတော်ဆင့်မင်း၏ ပါးနားကို ပုတ်ခတ်လွတ်လိုက်သည်။

သံတော်ဆင့်မင်းက ဤအကြောင်းကို မင်းတရားကြီးကို တင်လျှောက်ရာ မင်းကြီးက "သူတော်ကောင်းတွေ ကြောက်ရွာ လွန်းလို့ တောထဲမှာ ပုန်းအောင်းနေတာကို မောင်မင်းက သွားပြီး ပြစ်မှားတာကိုး။ ကန်တော့ချေပါ" ဟုဆို၍ သံတော်ဆင့်မင်းက

သွားရောက် ကန်တော့ရပါသည်။

(သံတော်ဆင့်ကို ထိပါးပုတ်ခတ်လျှင် ဘုရင်မင်းမြတ်ကို ထိပါး ပုတ်ခတ်သည်နှင့် အတူတူပင် ဖြစ်၏။)

အလှူ့အမဲသား

ကြွယ်လူးဆရာတော်၏အဘိုးသည် မြေးများကို ရှင်ပြုရာတွင် အမဲသားကို ကျွေးမွေးလှူဒါန်းမိသောကြောင့် စစ်ကိုင်းမြို့ဝန် ဦးရိုးက ဖမ်းဆီးချုပ်နှောင်ပြီး မန္တလေးထောင်သို့ ပို့လိုက်၏။

ဆရာတော်ကြီး၏ ကပ္ပိယကြီး ဦးရွှေရင်းက ကြားသိသဖြင့် ဆရာတော်ကြီးထံသို့လျှောက်ထားရာ ထွင့်ခေါင်ဆရာတော်ကြီးက "ဖြစ်မှဖြစ်ရလေဟယ်၊ သွားခေါ်ခဲ့ချည်ပါ" ဟု စေလွှတ်နုတ်ယူသဖြင့် ထောင်ဒဏ်မှ လွတ်ကင်းချမ်းသာရဘူးပါသည်။

မြို့ဝန်ဦးရိုးသည် ခပ်ကြမ်းကြမ်းဖြစ်ပြီး ရှံဖန်ရှံခါ ဆင်းရဲသားများကို ညှဉ်းပန်းတတ်သည် ဆို၏။ ပခန်းဆရာတော်၏ ဒကာတစ်ယောက်မှာ ဦးရိုး ဆိုးသွမ်းလှသည်ကို မခံမရပ်နိုင်သောကြောင့် ပခန်းဆရာတော်ကို လျှောက်ထား၏။ ပခန်းဆရာတော်ကလည်း "ငါမတ်နိုင်ဘူး၊ သာသနာပိုင်ဆရာတော်ဆီသွားလျှောက်" ဟု ဆိုသည်။ သာသနာပိုင်ဆရာတော်ကလည်း "ငါက သာသနာပဲပိုင်တာ" ဟု ဆိုကာ ထွင့်ခေါင်ဆရာတော်ကို လျှောက်စေ၏။ (ထွင့်ခေါင်ဆရာတော်ကား တကယ့်သူတော်ကောင်းဖြစ်သဖြင့် သူတပည့် စစ်ကိုင်းမြို့ဝန်ဦးရိုးကို အမှန်ဆုံးမလိမ့်မည်ဟု ယူဆ၍ ဖြစ်သည်။)

## အုန်းပင်စိုက်ခိုင်းတဲ့အမှု

စစ်ကိုင်းမြို့ မင်းစံရပ်က ပွဲစားဦးဖိုးအောင်နှင့် ပြည်လုံးဝရပ် ပွဲစား ဦးမိတ်တို့သည် ဘဏ္ဍာတော်ဂျုံများကို ခိုးဝှက်ရောင်းချကြ၍ မင်းတရားကြီးက အုန်းသီးတစ်လုံးစီပေး၍ ၎င်းအုန်းသီးများ အပင် ပေါက် အသီးသီးမှ ပြန်လာခဲ့ရမည်ဟု သံရွာသို့ပို့လိုက်၏။ သံရွာမှာ ငှက်ဖျားပေါသောအရပ် ဖြစ်သဖြင့် ပွဲစားနှစ်ယောက်လည်း ထွက်ပြေး ခဲ့ကာ ထွင့်ခေါင်ဆရာတော်ထံ ခိုလှုံပြီး ကယ်တော်မူရန် တောင်းပန် လျှောက်ထားကြသဖြင့် ကယ်မတော်မူရသည် ဟူ၏။

ကောင်းမှုတော် ပုဂံရပ်မှ ဦးချိန်ဆိုသူသည် ဘဏ္ဍာတော် ငွမ်း များကို ရောင်းစားပြီး မီးလောင်သည်ဟု လိမ်လည်မှုဖြင့် ရာဇဝတ်မှု သင့်သည်ကို ဆရာတော်ကြီးက ကယ်တင်ဘူးပါသည်။

## ပတ္တမြားသူခိုး ၁၆ ယောက်

ဘုရင်မင်းမြတ်၏ ဘဏ္ဍာတော် ပတ္တမြားကို အနောက်နိုင်ငံသို့ ခိုးဝှက်ရောင်းချသော သူဌေး ၁၆ ယောက်အား ဖမ်းဆီး၍ သတ်ရန် စီမံနေစဉ် ထွက်ပြေးလွတ်မြောက်သွားကြသည်။ စစ်ကိုင်းဘက်သို့ သွား၍ ထွင့်ခေါင်ဆရာတော်ကြီးထံ ဝင်ရောက်ပြီး စစ်ကိုင်းမြို့ဝန် ဦးရိုးကို အပြစ်မယူရန် ငွေ ၃၀၀၀ိ/– ပေးပြီး ခိုမှီနေထိုင်ကြ၏။ ဆရာတော်ကြီးကလည်း အကြောင်းသိတော်မူလျှင် အသက်ဘေးမှ ချမ်းသာအောင် နတ်ယူတော်မူ၏။

ဘွဲ့

ထွင့်ခေါင်ဆရာတော်ကြီး၏ မေတ္တာရပ်ခံချက်အရ ၁၂၁၅ ခု၊ ဝါခေါင်လတွင် စစ်ကိုင်းစီရင်စု၊ ကြက်ထောင်ရွာ၊ မြစ်စွတ်အင်းကို ဘွဲ့အဖြစ် ဘုရင်က သတ်မှတ်ပေးပါသည်။ ၁၂၁၆ ခု၊ တန်ခူးလပြည့်ကျော် ၆ ရက်နေ့တွင်လည်း စစ်ကိုင်းမြို့နယ်အတွင်း အရှေ့လားသော် ရာဇာမဏိစူဠာဘုရား၊ အနောက်လားသော် ငစိန်ဘဝချောင်း၊ မြောက်သို့လားသော် ကုန်းရွာ၊ ကျောက်ဆည်ရွာ၊ အရှေ့မြောက် စာရေးရွာနယ်အတွင်း သားငှက် တိရစ္ဆာန်များကို ဘွဲ့ချမ်းသာ သတ်မှတ်ပေးပြန်ပါသည်။

သက္ကရာဇ် ၁၂၂၄ ခုတွင် စစ်ကိုင်းမြို့နယ်၊ ရွှေမြင်တင်တောင်ရှိ ထွင့်ခေါင်ဆရာတော် သီတင်းသုံးတော်မူခဲ့သည့် ကျောင်းတိုက်ကို နယ်လေးရပ်သတ်မှတ်ပြီး ဘွဲ့ချမ်းသာ ပေးတော်မူပါသည်။

၁၂၂၅ ခု၊ နယုန်လတွင် ထွင့်ခေါင်ဆရာတော်ကြီး သီတင်းသုံးတော်မူရာ ခမ္ဘိကကျောင်းတိုက်အနီး အရှေ့သို့လားသော် ဧရာဝတီမြစ်အရှေ့ဘက်ကမ်းအထိ၊ မြောက်သို့လားသော် ကုက္ကိုချောင်း ထုံးဘိုမြောက်ရွာအထိ၊ အနောက်သို့လားသော် သေလာတောင်နှင့် တောင်သို့လားသော် ရွှေကျင်တောင်အထိ နယ်နိမိတ်အတွင်း မှီတင်းနေထိုင်ကြသည့် ရေပိုး ရေမွှား၊ သားငှက် တိရစ္ဆာန်များကို ဘွဲ့ချမ်းသာ သတ်မှတ်ပေးပြန်ပါသည်။

ဆရာတော်ကြီးကို အမှီပြု၍ သတ္တဝါများစွာ ချမ်းသာရာရကြ၏။

# ဆရာတော်ကြီး၏ မေတ္တာစေတနာ

## မေတ္တာပျက်သော်

ထွင့်ခေါင်ဆရာတော်ကြီးသည် မေတ္တာစာတ် ကြီးမားလှသဖြင့် အလွန်ရိုင်းစိုင်းသော တောသတ္တဝါများ၊ ကျားသစ်များပင် ဆရာတော်ကြီး၏ အနီးအပါးသို့ ချဉ်းကပ်ဝံ့ကြသည်။ ဆောင်းညများတွင် ဆရာတော်ကြီး မီးလှုံရာသို့ ကျားသစ်များ လာရောက် မီးလှုံလေ့ရှိသည်။

တစ်ညတွင် ဆရာတော်ကြီး၊ ကပ္ပိယကြီးနှင့် ကျားသစ်တစ်ကောင်တို့ မီးအတူ လှုံနေကြရာက ဆရာတော်ကြီးက အချိန်တန်သဖြင့် ကျောင်းပေါ်သို့ ကြွသွား၏။

ညဥ့်ကလည်းနက်သဖြင့် ကျားသစ်လည်း မီးလှုံရင်း အိပ်ပျော်သွား၏။ ကပ္ပိယကြီးလည်း မအိပ်ချင်သေးသောကြောင့် မီးပုံတွင် ကျားသစ်နှင့်အတူ မီးလှုံရင်း ကျန်ရစ်လေသည်။ အိပ်ပျော်နေသော ကျားသစ်က အသက်ရှုပုံ ပြင်းထန်၍ အာခံတွင်းမှ အပုပ်နံ့များ မှုတ်ထုတ်ရာ ကပ္ပိယကြီး၏အတွေးထဲတွင် "ပုပ်စော်နံလိုက်တာ၊ ပါးစပ်ထဲ မီးစနဲ့ ထိုးလိုက်ရရင်" ...... ဟု စိတ်က ကွက်မိလိုက်လျှင် ကျားသစ်လည်း လန့်နိုးပြီး ဂျွမ်းပစ်၍ ထွက်ခွာသွားတော့၏။

ထွင့်ခေါင်ဆရာတော်ကြီးက အသံကြားသဖြင့် "ဟဲ့ - ဘာဖြစ်ကြသလဲ၊ ဘယ်သူ တရား ပျက်တာလဲ၊ မေတ္တာ ပျက်တာလဲ၊ မပျက်ကြနဲ့၊ မပျက်ကြနဲ့" ဟု ပြောရာ ကပ္ပိယကြီးက "တပည့်တော်ကစ၍ ပျက်မိပါကြောင်း" ဝန်ခံ လျှောက်ထား၏။

## ဝိဇ္ဇာဓိုရ်လိမ်နှင့် တွေ့ခြင်း

လူသူပြတ်ချိန်တွင် ဆရာတော်ကြီးထံသို့လာရောက်ပြီး "ဝိဇ္ဇာဓိုရ်ဖြစ်ခါနီးပါပြီဘုရား၊ ယခု စရိတ်ပြတ်သွားသဖြင့် ထောက်ပံ့ပါဦးဘုရား" ဟု လှည့်ဖြား လျှောက်ထားသူတစ်ဦး လာ၏။

ဆရာတော်ကြီးက လိမ်ညာသူမှန်း သိတော်မူသော်လည်း ဆန်တစ်တင်း နှစ်တင်းကို ပေးလိုက်၏။ ဤသို့ဖြင့် အကြိမ်ကြိမ်လာရောက် တောင်းခံသည်။

အကြိမ်ကြိမ်လိမ်ညာရယူပြီးသော် ဝိဇ္ဇာဓိုရ်လိမ်သည် "ဒီတစ်ခါနောက်ပိတ်ဆုံးပါဘုရား၊ စရိတ်ချီးမြှင့်တော်မူပါဦးဘုရား" ဟုဆိုပြန်လျှင် ဆရာတော်က အထိုက်အလျောက် ပေးလိုက်သည်သာ ဖြစ်၏။

ကာလအတန်ကြာသော် ထိုဝိဇ္ဇာဓိုရ်လိမ်ပင် ရောက်လာပြန်ပြီး "ဓာတ်လုံးကတော့ ကိစ္စပြီးပါပြီဘုရား၊ ဆရာတော်ဘုရား အလိုရှိသည်ကို ဆောင်ရွက်ပေးရန် ဓာတ်လုံးယူပြီး ဆရာတော်ထံသို့အလာ တောင်ဗီလာဇရပ်၌ ဓာတ်လုံးကို ပါးစောင်တွင်ငုံပြီး ခေတ္တအိပ်နေစဉ် ဝိဇ္ဇာဓိုရ်တစ်ယောက်ရောက်လာပြီး တပည့်တော်၏ ပါးကိုချကာ ဓာတ်လုံးကို လုယူသွားပါသည်ဘုရား" ဟု လျှောက်ထားပြန်ရာ "အေးလကွာ၊ ငါဆရာကတော့ မေတ္တာအပို့သား၊ မေတ္တာ မရောက်ပဲကိုး" ဟု အလိုက်အထိုက် ပြန်၍ မိန့်ကြားသည်။

နဂိုကပင် လိမ်ညာလှည့်ဖြားလာသူမှန်း သိပါလျက်နှင့် သူ့အလိုပြည့်ပါစေဟူသော မေတ္တာ စေတနာဖြင့် ဆရာတော်ကြီးက ပေးကမ်းချီးမြှင့်ခြင်း ဖြစ်ပါသည်။

# ထွင့်ခေါင်သီလရှင်သာသနာ

## သီလရှင်အစ ထွင့်ခေါင်က

ထွင့်ခေါင်ဆရာတော်က မိမိထံမှောက်ရောက်လာသည့် တပည့်ပရိသတ်တို့ကို သံသရာမှလွဲတ်ကြောင်း တရားဟောကြား ဆုံးမတတ်သဖြင့် လူ့ဘောင်စွန့်၍ သာသနာ့ဘောင်သို့ ကူးလာကြသူများစွာရှိပါသည်။

ရဟန်းပြု၊ သီလရှင်ဝတ်လိုပါက အလွယ်တကူ ဝတ်ပေးနိုင်ရန်အတွက် ဘဝရှင်မင်းတရားကြီးက သက်န်းပရိက္ခရာများ အဆင်သင့်လှူဒါန်းထားပါသည်။ ဆရာတော်ကြီး၏အနီးရှိ ကျောင်းကြီးတစ်ဆောင် ဘေးနံရံများတွင် ပိတ်ဖြူများကို အပြည့် ကာရံပေးထား၍ သီလရှင် ဝတ်လိုသူရှိပါက ပိတ်ဖြူကို ချက်ချင်းဖြတ်၍ ဝတ်စေပါသည်။

ထိုစဉ်က သီလရှင်များသည် အဖြူဝတ်များ ဖြစ်ကြပါသည်။ နောင်တွင် ဆရာတော်ကြီးက ဖိုးသူတော်များနှင့် ကွဲပြားစေရန် သီလရှင် များကို မြေနီဆိုးပိတ်ကို ပြောင်းလဲ ဝတ်စေပါသည်။

ထွင့်ခေါင်ဆရာတော်ကြီး ကောင်းမှုတော်တောရကျောင်း၌ သီတင်းသုံးစဉ်ကပင် သီလရှင်တပည့်များ ရှိခဲ့ပါသည်။ သီလရှင်များက ဆရာတော်ကြီး၏ ဩဝါဒကိုခံယူ၍ ကောင်းမှုတော်ဘုရားကြီး အနောက်မုခ် ဝိနည်းခိုရ်ကျောင်းတိုက်ကြီး၏ တောင်ဘက်တွင် နေထိုင်ကြပါသည်။

ဆရာတော်ကြီးက သီလရှင်များကိုလည်း ကိုယ်တိုင်ချက်ပြုတ်စားသောက်ခြင်းမပြုပဲ ဆွမ်းခံခြင်းအမှုဖြင့် မျှတစွာ စားသောက်နေထိုင်ရန် ဩဝါဒပေး တော်မူပါသည်။

ယခုတိုင် စစ်ကိုင်းမြို့နယ်၊ ပန်းချီရွာဘက်တွင် ထွင့်ခေါင်ဆရာတော်ကြီး၏ အဆက်အနွယ် သီလရှင်များသည် ဘိက္ခုနီမများ အသွင် အတူပြု၍ ချက်ပြုတ်စားသောက်ခြင်းမပြုပဲ ဆွမ်းခံ၍သာ စားသောက်ကြပါသေးသည်။

## သီလရှင်တိုက်များ

ဒကာမများကို ဆရာတော်ကြီးက သီလရှင်ပြုပေးပြီးနောက် အချို့သီလရှင်များက မန္တလေးဘက်၊ အမရပူရဘက်၊ ကောင်းမှုတော်ဘက်တို့သို့ သွားရောက်သီတင်းသုံးကြပါသည်။ အချို့ကလည်း သီလရှင် ဆရာကြီးမယ်ကင်းအုပ်ချုပ်သော အထက်တိုက်နှင့် ထန်းတောရွာ တောင်ဘက်ရှိဥမင်ဦးတိုက်များတွင် နေထိုင်ကြပါသည်။

အထက်တိုက်မှာ ယခုအခါတွင် ယာခင်းဖြစ်ပြီး ရေတွင်းကျယ်တစ်ခုသာ အမှတ်အသားကျန်ရစ်ပြီး ဥမင်ဦးတိုက် (အောက်တိုက်) သည် ဥမင်ဦးရွာကျောင်းအဖြစ် ရှိနေပါသည်။

ထွင့်ခေါင်ဆရာတော်ကြီးသည် မန္တလေးရွှေမြို့တော်က အပြန်တွင် သီလရှင်တိုက်များ၌ ဆွမ်းဘုဉ်းပေးတတ်ပါသည်။

## သီလချောရယ်နဲ့

ထွင့်ခေါင်ဆရာတော်ကြီး သီတင်းသုံးသည့် ခမ္ဘိကချောင်နှင့် ဗန်းမော်ဆရာတော်ကြီး သီးတင်းသုံးရာ ဗန်းမော်ချောင်တို့မှာ

၂ မိုင်မျှသာ ကွာဝေးပါသည်။

တစ်ရက်တွင် သံဃကိစ္စတစ်ခုမှ အတူ ပြန်ကြွလာကြစဉ် လမ်းပေါ်က ဖွတ်သေတစ်ကောင်ကို မြင်တွေ့ရာ ဗန်းမော်ဆရာတော်က နောက်ပါ ကျောင်းသားကလေးကို "ဖွတ်သေကလေး ယူခဲ့ကွာ၊ ကျောင်းကျ ကပ္ပိစားရအောင်" ဟုခိုင်းသည်။ ထွင့်ခေါင်ဆရာတော်က "ဦးဗန်းမော်တို့များ ဖွတ်သားကြိုက်တယ်ထင်တယ်" ဟုကျီစယ်ရာ ဗန်းမော်ဆရာတော်က "တင်ပဲ့ – ဖွတ်ကြိုက်သူ ကြိုက်၊ သီလရှင် ကြိုက်သူ ကြိုက်ပေါ့ဘုရား" ဟုဆိုသဖြင့် ထွင့်ခေါင်ဆရာတော်က ပြုံးတော်မူပြီး "ဦးဗန်းမော်တို့ကဖြင့် လုပ်ကရော့မယ်ဗျာ" ဟု အမိန့်ရှိတော်မူ၏။

ဗန်းမော်ဆရာတော်သည် ခမ္မိကချောင်သို့ကြွလာပြီး အလ္လာပ – သလ္လာပစကားများ ပြောကြားလေ့ ရှိပါသည်။ တစ်ညနေချမ်းတွင် အတော်လှမ်းသော ကျောင်းခါးပန်း တစ်ခုတွင် "စိပ်ပုတီးရယ်နဲ့ ရိပ်မိုးတဲ့ ထွင့်ခေါင်၊ ဦးရွှေစို * သီလချောရယ်နဲ့ တောခိုသည့်ချောင်" ဟု ရေးသားခဲ့သည်။

တွေ့မြင်သော တပည့်များက ဆရာတော်ကိုလျှောက်ကြရာ "ဦးဗန်းမော်နေမှာပါ" ဟု ပြုံး၍ မိန့်တော်မူ၏။ ဗန်းမော်ဆရာတော် ကလည်း "သီလချောဆိုတာက ဖြူစင်သည့် သီလတရားကို ဆိုလို တာပါ" ဟု ပြန်ဖြေသည် ဆို၏။

အခါတစ်ပါးတွင် ဗန်းမော်ဆရာတော်က နောက်ပါသံဃာများနှင့် ခရီးထွက်ရင်း သီလရှင်ဇရပ်များအနီးသို့ ရောက်ရှိလာသည်။ သီလရှင်

---

* အချို့က အမှတ်မှားပြီး ဦးရွှေညိုဟု ဆိုကြပါသည်။

များက ကိုယ်ရုံ၊ ခေါင်းတင် စသည်တို့ကို ဧရပ်ပေါ်၌ လွှားတင်ထားကြရာ နောက်ပါကိုယ်တော်များက ဖွေးဖွေးဖြူဖြူတွေ မြင်တွေ့သဖြင့် ဗန်းမော်ဆရာတော်ကို မေးကြပါသည်။

ဗန်းမော်ဆရာတော်က "ကိုယ်တော်တို့မသိကြဘူးလား၊ အဲဒါ ထွင့်ခေါင်ဆရာတော်ရဲ့ ကြက်ဖြူမတွေနဲ့ ကြက်ဖြူမတွေနေတဲ့ ဧရပ်ပေါ့ကွာ" ဟု ရယ်ကာ မောကာ ပြောပါသည်။

"ဒါဖြင့်လည်း စာကလေးများ ချီးပါဦးဘုရား" ဟု လျှောက်ကြရာ ဗန်းမော်ဆရာတော်က လက်တန်းသဘောဖြင့် –

"မကျွမ်းတဲ့ မကျင်။ ဧရပ်ပေါ် မယ်သီလ၊ ခွန်းစလိုက်ချင်။
အသွေးငယ် ယဉ်ယဉ်၊ အသွင်ငယ် ပျော့ပျောင်း။
တောင်ခြေက ကျင့်တရားရယ်နဲ့၊ ဘွားသီလကျောင်း"။

ဟု စပ်ဆိုလိုက်သည်။

## ယဉ်ကျေးပြီးသား

ဗန်းမော်ဆရာတော်ကြီးက ထွင့်ခေါင်ဆရာတော်ကြီး၏ ဣန္ဒြိယ သံဝရ ရှိတော်မူပုံကို ........

"ထွင့်ခေါင်ဆရာတော်ကတော့ ယဉ်ကျေးပြီးသား၊ တို့များကတော့ ရိုင်းပြတဲ့ နွားကြီးနဲ့ တူတယ်။ ထွင့်ခေါင်ဆရာတော်က အချည်အနှောင် မရှိပေမယ့် ဘာမှမဖြစ်ဘူး။ တို့များမှာတော့ ချည်နှောင်ထားပေမယ့် သစ်ပင် စိုက်ပင် မြင်တိုင်း လှမ်းဟပ်ချင် ဟပ်နေတာ" ဟု ချီးမွမ်းတော်မူသည်။

## သီလရှင် စာချရမယ့်လက္ခဏာ

ထွဋ်ခေါင်ဆရာတော်ကြီးက သီလရှင်များကို စာချပေးပါသည်။ ထိုသို့စာချနေသည်ကို စစ်ကိုင်းမြို့ဝန်ကမြင်တွေ့ရာ ကြည်ညိုလွန်းသောကြောင့် "ဆရာတော်ဘုရား၊ သီလရှင်တွေကို စာမချပါနဲ့တော့ဘုရား" ဟုလျှောက်ထား၏။

ဆရာတော်ကြီးက စစ်ကိုင်းမြို့ဝန်ကို လက်ဖဝါး ဖြန့်ပြပြီး "ငါ့လက္ခဏာကိုက သီလရှင်စာချရမယ့် လက္ခဏာကွယ့်" ဟု အမိန့်ရှိတော်မူသည်။

**ဆရာတော်ကြီး၏ အထူးထင်ရှားသော တပည့်မ သီလရှင် သီလသည်များ –**

၁။ သီလရှင်ဆရာကြီး ဒေါ်ကင်း

ခမ္မိကချောင်။ နောက်ပိုင်း ဝါးချက် ဂူတစ်လုံးချောင်သို့ ပြောင်းရွှေ့သည်။

၂။ သီလရှင်ဆရာကြီး မယ်နတ်ပေး

ခမ္မိကချောင်။ နောက်ပိုင်း မင်းကွန်းသို့ ပြောင်းရွှေ့သည်။

၃။ သီလရှင်ဆရာကြီး ဒေါ်ဥတ္တရာ

ခမ္မိကချောင်။ နောက်ပိုင်း မန္တလေး ဘုရားကြီးအနီး ပြောင်းရွှေ့သည်။

၄။ သီလရှင်ဆရာကြီး ဒေါ်ဌွန်း

ခမ္မိကချောင်။ နောက်ပိုင်း ပိတိသုခကျောင်းသို့ ပြောင်းရွှေ့သည်။

၅။ သီလရှင် မတ္တရာဝန်ကတော်ကြီး

ခမ္မိကချောင်။ နောက်ပိုင်း စစ်ကိုင်းတောင်ရိုး တောင်ပိုင်းသို့ ရွှေ့သည်။

၆။ သီလရှင် ဒေါ်ဂေါတမီ

ကောင်းမှုတော် အနောက်ဘက် တောင်တိုက်။

၇။ သီလရှင် ဒေါ်ခေမာရီ

ကောင်းမှုတော် အနောက်ဘက် မြောက်တိုက်။

၈။ သီလရှင် သဒ္ဒါမလေး

အမရပူရမြို့ဘက်သို့ ရွှေ့သည်။

၉။ သီလရှင် သဒ္ဒါမလေး၏တပည့်၊ ဒေါ်သုစာရီ၊ ဒေါ်သုခဝတီ

ကောင်းမှုတော်ရွှေ့သည်။ ယခု ငါန်းဇွန်နှင့် စစ်ကိုင်းတောင်သို့ ရွှေ့သည်။ (စစ်ကိုင်း သရိုင်ချောင်)

၁၀။ သီလရှင် ဒေါ်ကုမ္မာရီ

ကောင်းမှုတော် မြောက်တိုက်။

ငင်း၏တပည့်မများ - ဒေါ်ဝိစာရီနှင့် ဒေါ်ဩဘာသီ ဆွမ်းချက်ရွာသို့ ရွှေ့သည်။



# ကျမ်းစာများပြုစုခြင်း

## ပြုစုခဲ့သောကျမ်းစာ

ထွင့်ခေါင်ဆရာတော်ကြီးသည် နောင်အရှည် တည်တန့်စေရန် ရည်ရွယ်၍ ကျမ်းစာများကို များစွာ ပြုစုတော်မူခဲ့ပါသည်။

ထင်ရှားသော ပါမောဇ္ဇ (၁၃) တွဲကို ပြုစုရေးသားခဲ့သည် ဆိုသော်လည်း ယခုအခါ (၈) တွဲသာ သိရှိရပါတော့သည်။ ယင်းတို့မှာ –

(၁) ရာဇ ပါမောဇ္ဇ

(၂) ဓမ္မ ပါမောဇ္ဇ

(၃) ပကိဏ္ဏ ပါမောဇ္ဇ

(၄) ပီတိ ပါမောဇ္ဇ

(၅) သံဝဂ ပါမောဇ္ဇ

(၆) အဇ္ဈာသယ ပါမောဇ္ဇ

(၇) သမန္တ ပါမောဇ္ဇ

(၈) သာဓုဇန ပါမောဇ္ဇ – ဟူ၍ ဖြစ်ပါသည်။

၎င်း (၈) တွဲအနက် ယခုအခါ (၃) တွဲသာ တွေ့ရှိထိန်းသိမ်းထားနိုင်ပြီး ခုတင်္ဂဝိနိစ္ဆယ၊ ရွှေမြင်တင်ချီးမွမ်းခန်း၊ ထွင့်ခေါင် ကမ္မဋ္ဌာန်းသံပေါက်၊ ထွင့်ခေါင်ဝတ်ရွတ်စဉ် များလည်း ပြုစုတွေ့ရှိထားပါသည်။

ဆရာတော်ကြီးသည် မင်းကွန်းရွှေမြင်တင်တောင်ထိပ်သို့ မကြာခဏ ကြွရောက် သီတင်းသုံးလေ့ရှိပြီး ဆရာတော်ကြီး ဦးစီးသမုတ်

ခဲ့သော သိမ်တော်ကြီးမှာ ယခုထိတိုင် ရွှေမြင်တင်ဘုရား ရင်ပြင်ပေါ်တွင် ရှိပါသေးသည်။ ဆရာတော်ကြီးက ရွှေမြင်တင်တောင်၏ အေးချမ်းသာယာမှုကို နှစ်သက်တော်မူသဖြင့် ရွှေမြင်တင်ချီးမွမ်းခန်းကို ပြုစုခဲ့ခြင်း ဖြစ်ပါသည်။

## ကျမ်းစာများ ကွယ်ပျောက်ပုံ

ဆရာတော်ကြီး ပျံတော်မူသောအခါ ဈာပနကျင်းပမည့်နေရာသို့ အလောင်းတော်ကိုရွှေ့ပြောင်းပြီး မကြာမီမှာပင် ဆရာတော်ကြီး သီတင်းသုံးတော်မူသည့်ကျောင်းကို မီးသင့်လောင်သဖြင့် ဆရာတော်ကြီး ပြုစုထားသော ကျမ်းစာများအားလုံး မီးခသွားရခြင်းဖြစ်ပါသည်။ ယခုတွေ့ရှိသော ကျမ်းများမှာ အခြားကျောင်းများ၌ ရောက်ရှိနေသော ကျမ်းစာအချို့သာ ဖြစ်ပါသည်။

## ဝတ်ရွတ်စဉ်

ထွင့်ခေါင်ဆရာတော်ကြီးသည် ဝတ်ရွတ်စဉ်များကို ရေးသားချီးမြှင့်တော်မူခဲ့ပါသည်။

ဝတ်ရွတ်စဉ်ကို အရွယ်ကြီးမှ ရဟန်းဘဝ ခံယူကြသူများအတွက် ရည်ရွယ်ရေးသားထားပြီး နှုတ်ကလည်းရွတ်ဆို၊ စိတ်ကလည်း နှလုံးသွင်းရန် ဖြစ်၏။ နေ့စဉ် ညနေ ၃ နာရီမှ ၆ နာရီအထိ ချောင်အလယ်က ရုပ်စုံမွှာရုံကြီး၌ စုရုံးကာ ဖြည်းဖြည်းပီပီ ရွတ်ဆို နှလုံးသွင်းကြရသည် ဖြစ်ပါသည်။ ရွတ်ဆိုရာသို့ ဆရာတော်ကြီး ကိုယ်တိုင်လည်း ကြွရောက်တော်မူလေ့ ရှိပါသည်။

ဝတ်ရွတ်စဉ် အစီအစဉ်မှာ

(၁) ပရိတ်ကြီး ၁၁ သုတ်

(၂) ဘိက္ခုပါတိမောက်

(၃) ပေစ္စဝေက္ခဏာ

(၄) ဗောဇ္ဈင်သုတ်တော်

(၅) ကမ္မဋ္ဌာန်းအပိုင်း

(၆) ရဟန်းဆိုင်ရာ ကမ္မဝါစာများ
(ရဟန်းခံ၊ သိမ်သမုတ်၊ သိမ်နုတ် တို့ကို တလှည့်စီ ရွတ်ကြရပါသည်။)

## မျက်စိလည်သည့် ကမ္မဋ္ဌာန်း

ထွင့်ခေါင်ဆရာတော်ကြီး၏ ငယ်ဆရာရင်းဖြစ်သော မန်ကျည်းတောဆရာတော်ကြီးက "မောင်စိုက ကမ္မဋ္ဌာန်းရေးတယ်ဆို၊ ငါ့ဆီယူပြကြပါ" ဟု အမိန့်ရှိသဖြင့် ယူပြရာ ဖတ်ကြည့်ပြီး "မင့်ကမ္မဋ္ဌာန်းက ကောင်းတော့ ကောင်းပါရဲ့၊ တယ်လဲ မျက်စိလည်သကိုး' ဟု မိန့်တော်မူ၏။

ကမ္မဋ္ဌာန်းမှာ ခန္ဓာ၊ အာယတန၊ ဓာတ်၊ သဒ္ဒါ၊ ပဋိစ္စသမုပ္ပါဒ်တို့ကို ဇယားပိုထ်လေးပါး၊ လက္ခဏာရေးသုံးပါးတို့ဖြင့် လှည့်ရေးထားသဖြင့် ပေ ဆယ်အင်္ဂါခန့် ရှိပါသည်။ ထို့ကြောင့် မိန့်တော်မူခြင်းဖြစ်ပါလိမ့်မည်။

## ငါ့ချာလန်တွေက စွံ

ရန်ကင်းတောင်ဘက်မှ သိမ်သမုတ် ပင့်သောကြောင့် ထွင့်ခေါင်ဆရာတော်ကြီးသည် နောက်ပါတပည့် ၄–၅ ပါးနှင့် ကြွတော်မူ၏။

သိမ်သမုတ်၊ သိမ်နုတ်ပြုရန် အခြားမှ ကြွရောက်လာသော ငယ်ဖြူ ရဟန်းတော်လေးများမှာ ကမ္မဝါစာ ရှာမတွေ့သဖြင့် တော်တော်နှင့် မဖတ်နိုင်ကြသေးပဲ စောင့်ဆိုင်းနေရ၏။

ကမ္မဝါရ၍ ဖတ်ပြန်သောအခါလည်း ဖြောင့်ဖြောင့် မဖတ်နိုင်ပေ။ ဆရာတော်ကြီးတပည့်များမှာ နေ့စဉ် ဝတ်တက်တိုင်း အမြဲ ရွတ်ဖတ်နေကြရသောကြောင့် အလွတ် ရနေကြသဖြင့် ကမ္မဝါကို ကိုင်ရုံသာကိုင်၍ ရွတ်ကြ၏။ ကြည့်ရန်၊ ရှာရန်၊ အဆက် လှန်ရန် မလိုပဲ ချောမောစွာ ရွတ်ဆိုနိုင်ကြ၏။

သံဃကိစ္စပြီးစီး၍ ပြန်ကြွလာကြသောအခါ ဆရာတော်ကြီးက "ငယ်ဖြူကိုယ်တော်တွေကလည်း ငါ့ချာလန်တွေလောက်မှ မစွံကြပဲကိုး" ဟု ရယ်မော၍ မိန့်တော်မူ၏။

## သိမ်သမုတ်အငြင်း

ထွင့်ခေါင်ဆရာတော်ကြီး အကြီးအမှူးပြု၍ ကောင်းမှုတော် ဒက္ခိဏာဝန်တိုက်အတွင်း၌ သိမ်သမုတ်ပါသည်။

ဆရာတော်ကြီးက ဘုရားဝင်းအတွင်း ဘုရားလှူပြီး ဝတ္ထုကံမြေ ဖြစ်၍ ၎င်းအတွင်းသာ ဝိသုံဂါမခေတ်အဖြစ် သံဃာသိမ်း၍ သမုတ်သည်ကို အချို့ဆရာတော်များက သဘောမကျသောကြောင့် အခြားနေရာတွင် အောင်–မအောင် ငြင်းခုန် ပြောဆိုကြ၏။

ဆရာတော်ကြီး၏တပည့် သီလရှင် မယ်ဥတ္တရာက ထိုကိစ္စ ကြားသောကြောင့် ဆရာတော်ကြီးကို "အကျိုးအကြောင်း ဖြေရှင်းတော်မူပါဦးဘုရား" ဟုလျှောက်ရာ ဆရာတော်ကြီးက "ငါ့တတောင်ဆစ်ကို ကြည့်စမ်း" ဟု ပြတော်မူပြီး "ငါက ဆရာ့ထံဝပ်ပြီး ကာလရှည်ကြာ ပညာသင်လာခဲ့တာပါ၊ ငါတို့အပေါ် ခုံမရှိဘူးဟဲ့" ဟု မိန့်တော် မူသည်။

ထွင့်ခေါင်ဆရာတော်ကြီးက မိမိ၏ဗဟုသုတစရ ဝိနယဂရုက ဝိနယဆေက အဖြစ်ကို ရဲရင့်စွာ ပြောကြားခြင်း ဖြစ်ပါသည်။

## ဘဝနတ်ထံ စံလွန်တော်မူခြင်း

### တိုက်တာလွှဲအပ်ခြင်း

ခမ္မိကချောင်တွင် ထွင့်ခေါင်ဆရာတော်ကြီး၏တပည့် သံဃာပရိသတ် ၅၀၀ မျှရှိပါသည်။ သို့သော် ကြီးမှ ရဟန်းပြုလာသူ တောထွက်နှင့် လူပျိုကြီးက များသောကြောင့် ငယ်ဖြူများကဲ့သို့ ကျမ်းဂန် တတ်ကျွမ်းသူ နည်းပါးကြသည်။

ထွင့်ခေါင်ဆရာတော်ကြီး သက်တော် ၈၀ ကျော် ၈၁ နှစ်ပိုင်းတွင် ဇရာဒုဗ္ဗလ ဖိစီးလာပြီဖြစ်သဖြင့် ခမ္မိကတိုက်ကို စီမံအုပ်ချုပ်နိုင်မည့်ပုဂ္ဂိုလ်ကို ကြည့်ရှုတော်မူ၏။ ကောင်းမှုတော် တောကျောင်း၌ သီတင်းသုံးနေထိုင်သော (တူတော်ဖြစ်သော) ဦးဇိနဝံသကို ပင့်ခေါ်စေပါသည်။ ထို့နောက် သံဃာပရိသတ်ကို စုဝေးစေပြီး သံဃာပရိသတ် ၅၀၀ အလယ်တွင် "ဇိနဝံသ သည် ဝါတော်အားဖြင့်လည်း

၄၀ ကျော်၊ သက်တော်အားဖြင့်လည်း ၆၀ ကျော်ပါသည်။ မျိုးရိုးအနေဖြင့်လည်း တပည့်တော်၏ အစ်မအရင်းကမွေးသော တူအရင်းလည်းဖြစ်ပါသည်။ ပါဠိအဋ္ဌကထာ ဋီကာအရပ်ရပ်ကိုလည်း နှံ့စပ်ကျွမ်းဝင် သင်ကြားဖူးသူ ဖြစ်ပါသည်။ ထို့ကြောင့် ခမ္မိကချောင်၏ ဦးစီးနာယက သံဃဝန်ဆောင်အဖြစ် လွှဲအပ်လိုကြောင်း” မိန့်ကြားပါသည်။

ပရိသတ်အစုံအညီကလည်း နှစ်သက်သဘောညီကြသဖြင့် ၁၂၄၁ ခု၊ ဝါဆိုလပြည့်နေ့တွင် ဝိနည်းကံနှင့်အညီ သမ္မုခိဘူတပြု၍ ခမ္မိကချောင်၏ သံဃနာယကအဖြစ် သံဃဂရုဘဏ် လဟုဘဏ် တို့ကို စောင့်ရှောက်ရန် လွှဲအပ်လိုက်ပါသည်။

ဆရာတော် ဦးဇိနဝံသလည်း မူလသီတင်းသုံးရာ ကောင်းမှုတော်တောကျောင်းမှ ခမ္မိကချောင်သို့ ၁၂၄၁ ခုနှစ်မှာပင် ရွှေ့ပြောင်းဝါဆို၍ သံဃတာဝန်ကို ထမ်းရွက်တော်မူသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ထွင့်ခေါင်ဆရာတော်ကြီးက တူတော် ဦးဇိနဝံသအား ခမ္မိကချောင်ကို လွှဲအပ်တော်မူပြီးနောက် တစ်နှစ်အကြာ ၁၂၄၂ ခု၊ ပထမဝါဆိုလဆန်း ၂ ရက်နေ့တွင် ဘဝနတ်ထံ ပျံတော်မူသည်။

ဆရာတော်ကြီးပျံတော်မူသောအခါ အလောင်းတော်ကို သီပေါမင်းနှင့် မှူးမတ်ပရိသတ်များ လာရောက် ပူဇော်ကြသည်။

အန္တိမဈာပန မီးသင်္ဂြိုဟ်ပွဲကို (ယခု အရိုးအိုးစေတီတော် တည်ထားရာနေရာ၌) ခမ်းနားစွာ ပြုလုပ်ကြ၏။ အလောင်းတော်ကို

ကျောင်းပေါ်မှချ၍ ရွာပနအခမ်းအနားသို့ ရောက်သောအခါ ထွင့်ခေါင် ဆရာတော်ကြီး သီတင်းသုံးတော်မူခဲ့သော စံကျောင်းတော်ကြီးသည် အလိုအလျောက် မီးသင့်လောင်သွားရာ ဆရာတော်ကြီး ပြုစုခဲ့သော ကျမ်းစာများစွာလည်း ကျောင်းနှင့်အတူ မီးလောင်ပျက်စီးသွားလေ တော့သည်မှာ များစွာ နှမြောစရာ ကောင်းလှပါတော့သတည်း။

## ပထမထွင့်ခေါင် ဆရာတော်ကြီး၏ ဓာတ်ကမ္ဗဋ္ဌာန်းသံပေါက်များ

၁။ သဗ္ဗေ သတ္တာ၊ ဝေနေယျာ၊ သံသာ ရှည်လှပြီ။
၂။ အတည်ကျကျ၊ ဘယ်ဘဝ၊ ရကြ မရှိပြီ။
၃။ ရအံ့ နိုးနိုး၊ လောဘမျိုး၊ အကျိုးယုတ်လှပြီ။
၄။ သုံးပါးညီးညီး၊ လောင်မီးကြီး၊ ဖိစီးလှလေပြီ။
၅။ လောင်မှန်း မသိ၊ မောဟဖိ၊ မိမိ မိုက်လှပြီ။
၆။ ပိုးဖလံမျိုး၊ မီးကိုတိုး၊ ကိုယ်ကျိုး နဲလှပြီ။
၇။ ကာမဂုဏ်မွဲ၊ သည်မိုက်နဲ၊ မခွဲနိုင်ကြပြီ။
၈။ မခွဲနိုင်ကြ၊ လူ့ဗာလ၊ မိုက်စ သိမ်းသင့်ပြီ။
၉။ ဂင်္ဂါသဲတူ၊ ပွင့်တော်မူ၊ ဆူဆူ များလှပြီ။
၁၀။ များ အသချေ်၊ ရှင်စောတွေ၊ ရှောင်သွေခဲ့လှပြီ။
၁၁။ တစ်ဆူ မသင့်၊ တစ်ဆူ သင့်၊ ဖူးခွင့် ထိုက်လှပြီ။
၁၂။ မတော်မလျား၊ ကျင့်ဖောက်ပြား၊ မိုက်အား ကြီးလှပြီ။
၁၃။ အလို မလိုက်၊ သည်အမိုက်၊ ပယ်ထိုက် သင့်လှေပြီ။

၁၄။ မပယ် မချိုး၊ ဆင်ကန်းတိုး၊ ဟုတ်နိုး ထင်လှုပြီ။
၁၅။ ဟုတ်နိုးသမှု၊ ထင်တိုင်းပြု၊ ယခု တိုင်ခဲ့ပြီ။
၁၆။ တရားလက်လွတ်၊ ငှက်တောင်ကျွတ်၊ ဝဋ်နှင့် မကင်းပြီ။
၁၇။ မနုဿတ္တ၊ ဒုလ္လဘ၊ မရ များလှပြီ။
၁၈။ အရတော်လှ၊ သည်ဘဝ၊ သည်က ကျင့်ထိုက်ပြီ။
၁၉။ ကြုံကြိုက်တော်စွာ၊ သာသနာ၊ ရောင်ဝါ ထွန်းလှပြီ။
၂၀။ သတိရရ၊ မြတ်ပုညာ၊ ပြုကြ ကောင်းလေပြီ။
၂၁။ တစ်နေ့ တစ်နေ့၊ နက်ဖန်ရွှေ့၊ မမေ့ကောင်းသင့်ပြီ။
၂၂။ ငါ့ကိုယ်, ငါ့သား၊ ငါ့မယား၊ ထင်မှားလှလေပြီ။
၂၃။ ထင်မှားတတ်စွာ၊ သတ္တဝါ၊ မိစ္ဆာ ကင်းသင့်ပြီ။
၂၄။ ငါးခု ခန္ဓာ၊ ရုပ်နာမ်မှာ၊ မှန်စွာ မှတ်သင့်ပြီ။
၂၅။ သမ္မုသန၊ ဉာဏ်အစ၊ ထင်လှကြသင့်ပြီ။
၂၆။ နင်ဖြင့် နင့်ကိုယ်၊ ဆုံးမဆို၊ နင့်ကိုယ် အမှုသည်။
၂၇။ နင် မဆုံးမ၊ နင့်တာပ၊ ဘယ်က ခံလိမ့်မည်။
၂၈။ နှလုံး ဖုံဖုံ၊ ထုံတုံတုံ၊ နင့်ပုံ ကြောက်ကြမ်းသည်။
၂၉။ နင်ဖြင့် နင့်ကံ၊ စီရင်ဖန်၊ အမှန်ဖြစ်တော့သည်။
၃၀။ ယခု နင့်ကို၊ နင့် အလို၊ ဘယ်ကို ပြည့်စုံသည်။
၃၁။ နင့်ကိုယ် နင်နှစ်၊ နင့် အပြစ်၊ နင်ဖြစ် ခံရမည်။
၃၂။ နင့်ကိုယ် နင်အား၊ နင် မသနား၊ နင် မှားရှာတော့သည်။
၃၃။ ဒါန, သီလာ၊ ဘာဝနာ၊ နင်သာ ပြုသင့်သည်။
၃၄။ ဇာတိ ဇရာ၊ မရဏာ၊ မကြာ နင်တွေ့မည်။
၃၅။ မျက်တောင်တစ်ယှက်၊ လျှပ်တစ်ပြက်၊ နင့်သက် သေလိမ့်

မည်။
၃၆။ ဘယ်နှစ် ကာလ၊ ရောက်ခါမှ၊ ကာလ မရွေ့ပြီ။
၃၇။ ကြီး ငယ် မဟူ၊ ကိုယ့်ရွယ်တူ၊ ခုမူ သေလှုပြီ။
၃၈။ အမှန်သေရိုး၊ ထိုလူမျိုး၊ ကြောက်စိုး ရွံ့သင့်ပြီ။
၃၉။ မသွင်းနှလုံး၊ အထင်ရှုံး၊ ပျက်ပြုန်းလှလေပြီ။
၄၀။ ခန္ဓာကြွေလျှော၊ ရှိပြန်သော၊ ပူဇော လောင်လှုပြီ။
၄၁။ သွားကျိုး ဆံဖြူ၊ ရှိပြန်မူ၊ ဘယ်သူ မကြောက်ပြီ။
၄၂။ ဤသည့် မယား၊ ဤသည့် သား၊ မိးပွား မှန်တော့သည်။
၄၃။ ခယ ဝယ၊ ဘိဇ္ဇန၊ ပျက်လှလေကုန်ပြီ။
၄၄။ အပ္ပိယေဟိ၊ ပိယေဟိ၊ ဒုက္ခ ကြုံလေပြီ။
၄၅။ ဒုက္ခထွေထွေ၊ တပေပေ၊ ခံနေရလေပြီ။
၄၆။ နိဗ္ဗာန်သာခေါင်၊ ဘေးမဲ့သောင်၊ ရောက်အောင် ပြုသင့်ပြီ။
၄၇။ မပြုပါပဲ၊ နင် ရှောင်လွှဲ၊ နင်ပဲ မိုက်လှသည်။
၄၈။ ယုတ္တိ ယုတ္တာ၊ နင် ဆင်ကာ၊ ဟန်သာ နင်များသည်။
၄၉။ ဘုရားသွားသွား၊ ကျောင်းသွားသွား၊ စိတ်ထား နင်မကြည်။
၅၀။ ဒါန သီလာ၊ နင်ပြုကခါ၊ စေနာ ဇောမကြည်။
၅၁။ သို့စင်ပြုလို၊ နင့်ကုသိုလ်၊ ဘယ်ကို သွားလိမ့်မည်။
၅၂။ လောကုတ္တရာ၊ မြိုက်သြဇာ၊ နင်သာ ဝေးတော့သည်။
၅၃။ ဇောစိတ်သန်သန်၊ ကုသိုလ်မှန်၊ နင်ကြံ ပြုရမည်။
၅၄။ သို့ပြုမှသာ၊ ပြည်ခေမာ၊ နင်သာ နီးရမည်။
၅၅။ ဤသို့စုံစေ့၊ ပြန်လှန်၍၊ စေ့စေ့ နှစ်လုံးတည်။
၅၆။ အနမတဂ္ဂ၊ သံသာရ၊ ကြာလှလေကုန်ပြီ။
၅၇။ ဂင်္ဂါဝါလု၊ ပမာပြု၊ သဲစု မကပြီ။

၅၈။ တဏှာ၏နောက်၊ တကောက်ကောက်၊ လိုက်ထောက် မသင့်ပြီ။
၅၉။ တဏှာ မြစ်မ၊ ပင်လယ်ဝ၊ နစ်ကြလေကုန်ပြီ။
၆၀။ တဏှာလည်းပွား၊ ဒုက္ခများ၊ သွား၍ မဆုံးပြီ။
၆၁။ တဏှာပို့တင်၊ ပါယ်လေးခွင်၊ လျင်စွာ ရောက်လေပြီ။
၆၂။ သေမင်းနိုင်ငံ၊ အဖန်ဖန်၊ လိုက်ပြန်ရလေပြီ။
၆၃။ ဝေဘူတောင်မျှ၊ ပမာပြ၊ အရိုး မကပြီ။
၆၄။ နစ်တုံး ပေါ်တုံ၊ သုံးပါး ဘုံ၊ ကြုံပြန်ရလေပြီ။
၆၅။ ချမ်းသာမငွေ့၊ ဆင်းရဲတွေ့၊ ငြီးငွေ့သင့်လှပြီ။
၆၆။ အဝိဇ္ဇန္ဓ၊ သည်မောဟ၊ ညှဉ်းဆဲလှလေပြီ။
၆၇။ နိဝရဏ၊ တားဆီးကြ၊ လမ်းစ မဆုံးပြီ။
၆၈။ ဂတိငါးပါး၊ ဆုံလည်နွား၊ သွား၍ မဆုံးပြီ။
၆၉။ ဘဝတိုင်းသေ၊ သင်္ချိုင်းမြေ၊ ပွားစေလှလေပြီ။
၇၀။ လမ်းကောက်လည်းသွား၊ လူအများ၊ အမှား ကြိုက်ခဲ့ပြီ။
၇၁။ လမ်းကြောင်းမမှန်၊ မြတ်နိဗ္ဗာန်၊ ကေန် လွဲခဲ့ပြီ။
၇၂။ ဘဝမဆုံး၊ ဒုက္ခတုံး၊ လုံးလုံး ခံရပြီ။
၇၃။ လောကမျက်ရှု၊ သဗ္ဗညု၊ ယခု ရှိရဲ့မင်း။
၇၄။ ဘုရားဖြစ်ခါ၊ သာသနာ၊ ရောင်ဝါ တဝင်းဝင်း။
၇၅။ မနုဿတ္တ၊ လူ့ဘဝ၊ ရအောင် ခဲကြမင်း။
၇၆။ ဗြဟ္မာ့ပြည်က၊ အပ်ကိုချ၊ မြေက အပ်တစ်စင်း။
၇၇။ အပ်သွားချင်းသာ၊ ထိဖွယ်ရာ၊ ပမာ မှတ်ကြမင်း။
၇၈။ နိယျာနိက၊ မြတ်ဓမ္မ၊ ကြားရခဲ၏ မင်း။

၇၉။ သဒ္ဓါဗလဝ၊ ဒုလ္လဘာ၊ ရအောင် ခဲကြမင်း။

၈၀။ အရတော်ခိုက်၊ လူတဝိုက်၊ ခဲလိုက်ကြကုန်မင်း။

၈၁။ ကိုယ့်ဘို့မရ၊ သည်နောင်တ၊ ဖြစ်တတ်ကြ၏မင်း။

၈၂။ ဤသို့ဘဝ၊ ဖြစ်သမျှ၊ ရမည် ခဲ၏မင်း။

၈၃။ ထူးမြတ်စွာလှ၊ လူ့ဘဝ၊ နှမြောကြကုန်မင်း။

၈၄။ မြတ်သည်ကိုမှ၊ မသိကြ၊ ဗာလ နှလုံးသွင်း။

၈၅။ ဗာလ ဖြစ်က၊ လူ့ပါပ၊ ကြာကြကုန်ပြီမင်း။

၈၆။ လူဖြစ်ကျိုးမှ၊ မခံရ၊ ရှုံးလှချေ၏မင်း။

၈၇။ ဘဝတိုင်းရှုံး၊ လူ့ကျောက်တုံး၊ စုံးစုံး မြုပ်၏မင်း။

၈၈။ စုံးစုံးမြုပ်ခါ၊ မပေါ်လာ၊ ကြမ္မာ မှောက်၏မင်း။

၈၉။ နိဗ္ဗာန်လမ်းစ၊ ဤသို့ပြ၊ မှတ်ကြ နှလုံးသွင်း။

၉၀။ ကလျာဏမိတ္တ၊ ပဏ္ဍိတ၊ ပေါင်းဖော်ရ၏မင်း။

၉၁။ ထို ကလျာဏ၊ ဆိုဆုံးမ၊ လိုက်နာရ၏မင်း။

၉၂။ ယောနိသောမနသိကာရ၊ နေ့ည နှလုံးသွင်း။

၉၃။ သီလစတင်၊ ဆောက်တည်လျှင်၊ သည်တွင် အစမင်း။

၉၄။ အလောဘ, အဒေါသ, အမောဟ, နိက္ခမ, ဝိဝေက,
နိဿရဏ၊ ဤခြောက်ဝကို၊ အလိုရှိကြမင်း။

၉၅။ ရွှေပြည်သနစ်၊ သာသည့်ခေတ်၊ စိစစ်ကြကုန်မင်း။

၉၆။ ရွှေပြည်ချမ်းသာ၊ စံချင်ရှာ၊ ဆိတ်ငြိမ်ရာသို့ ချဉ်း။

၉၇။ အနိစ္စကောင်, ဒုက္ခကောင်, အနတ္တကောင်, အသုဘကောင်
ထင်အောင် နှလုံးသွင်း။

၉၈။ အနိစ္စတုံး၊ ဒုက္ခတုံး၊ အနတ္တတုံး၊ အသုဘတုံး၊
လုံးလုံးမှတ်ကြမင်း။

၉၉။ ဤသို့ထင်မှ၊ မင်္ဂလမ်းစ၊ ရမည် မှန်စင်းစင်း။
၁၀၀။ မဂ္ဂင်ဖောင်ကြီး၊ တက်၍စီးမှ၊ ပြည်ကြီးအမတ၊ နိဗ္ဗာန၊ ရမည် မုတ်ကြမင်း။
၁၀၁။ ယခုဘဝ၊ မသိကြ၊ အမတ–မည်ခေါ်၊ ရွှေပြည်တော် အစော် မနံလျှင်း။
၁၀၂။ အစော်မနံ၊ အဖန်ဖန်၊ သေပြန်ဦးမည်မင်း။ ။

ဓမ္မကချောင်နှင့်
တရုတနာထွင့်ခေါင်သာသနာ
အပိုင်း (၁) ပြီး၏။

  

# ဒုတိယ ထွင့်ရှုခေါင်ဆရာတော် ဘဝဖြစ်စဉ်

## ဇာတိနှင့် မိဘ

ဒုတိယ ထွင့်ရှုခေါင်ဆရာတော်ဖြစ်လာမည့် မောင်သာရွဲကို ဟင်္သာတခရိုင် လေးမျက်နှာမြို့နယ် မြင်းကကုန်းရွာ၌ ခမည်းတော် ဦးစံလုံး– မယ်တော် ဒေါ်ငွေတို့က ၁၁၈၀–ပြည့်နှစ် နတ်တော်လဆန်း ၆ ရက်နေ့တွင် ဖွားမြင်တော်မူသည်။

ရဟန်းလောင်းမယ်တော် ဒေါ်ငွေမှာ ပထမဆရာတော်ကြီး၏ အစ်မအရင်းဖြစ်ပါသည်။ မွေးချင်း ၄ယောက်တွင် အဦးဆုံးသားရတနာ ဖြစ်၏။

## စစ်ကိုင်းသို့

ပထမထွင့်ခေါင်ဆရာတော်၏ ရဟန်းအမ နန်းမတော်မယ်နုက ခေါ်ယူချီးမြှောက်သဖြင့် ဦးစံလုံးနှင့် ဒေါ်ငွေတို့မှာ စစ်ကိုင်းမြို့ ပွဲဆိပ်ရပ်သို့ ရွှေ့ပြောင်းနေထိုင်ကြရပါသည်။ ရဟန်းလောင်း မောင်သာရွဲလည်း မိဘများနှင့်အတူ လိုက်ပါလာရပြီး စစ်ကိုင်းရောက်မှ မောင်သာဖဲ၊ မဖဲသီး၊ မလွန်းမယ်ဟူသော ညီ–ညီမများ ဖွားမြင်ကြခြင်း ဖြစ်ပါသည်။

## သာမဏေပြုခြင်း

မောင်သာရွဲ ၈ နှစ်သားအရွယ် ရောက်သောအခါ ဦးရိုးတော် ထွင့်ခေါင်ဆရာတော် သီတင်းသုံးသည့် အင်းဝမြို့ မန်ကျည်းတော ကျောင်းတိုက်တွင် အပ်နှံပြီး ကျောင်းသား၏အားလျော်စွာ သင့်ရာ သင်ပုန်းကြီး၊ မင်္ဂလသုတ်တို့ကို သင်ယူ၏။

၁၃ နှစ်သားအရွယ် ရောက်သောအခါ မန်ကျည်းတော ဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော သာမဏေဘဝသို့ ကူးပြောင်းပါသည်။

သာမဏေဘွဲ့တော်မှာ ရှင်ဇိနဝံသ ဖြစ်၏။

ရှင်ဇိနဝံသသည် မန်ကျည်းတောဆရာတော်ကြီးနှင့် ဦးရိုးတော် ထွင့်ခေါင်ဆရာတော်တို့ကို အမှီလည်းပြု၍၊ ဉာဏ်တော်ထက်မြက်ပြီး လုံ့လဝီရိယလည်းကောင်းသဖြင့် ပထမကျော် စသည်တို့ကို ဖြေဆို အောင်မြင်တော်မူပြီး၊ သာယာဝတီမင်းသား၏မိဖုရား မြကလေး မင်းသမီးက ပစ္စည်းလေးပါးဖြင့် ထောက်ပံ့ကိုးကွယ်သော သာမဏေ ဖြစ်လာရသည်။

## ရဟန်းပြုတော်မူခြင်း

သာမဏေ ရှင်ဇိနဝံသသည် ၁၁၉၉ ခု၊ ဝါဆိုလဆန်း မြကလေး မင်းသမီးက ရဟန်းအမခံယူပြီး မန်ကျည်းတော ဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြု၍ မြင့်မြတ်သော ရဟန်းအဖြစ်သို့ တက်လှမ်းတော်မူပါ သည်။

ထိုနှစ်မှာပင် သာယာဝတီမင်းသား အထွတ်အထိပ်သို့ရောက် သဖြင့် ရဟန်းအမ မင်းသမီးလည်း 'သီရိမဟာ သုရတနာ စန္ဒာဒေဝီ' ဟူသော ဘွဲ့အမည်ဖြင့် အနောက်နန်းဆောင်ကိုရသည်။ စာဆိုတော် ဖြစ်၍ 'နန်းမတော်မမြကလေး'ဟု ထင်ရှားပါသည်။

အရှင်ဇိနဝံသ သည် ရဟန်းအဖြစ်သို့ရောက်တော်မူပြီးနောက် အင်းဝမြို့၊ အမရပူရမြို့၊ မန္တလေး ရတနာပုံနေပြည်တော်များတွင် ရွှေ့ပြောင်း၍ စာချအကျော်ဖြစ်သည့် တံဆိပ်တော် ရ–မရ ဆရာတော် များထံပါးတွင် ပညာသင်ယူတော်မူ၏။

ပညာသင်ယူ၍ ပါဠိ အဋ္ဌကထာ ဋီကာအရပ်ရပ်ကို နှံ့စပ် ကျွမ်းဝင်သည့် သိက္ခာတော် ၂၀ ကျော်သော သက္ကရာဇ် ၁၂၂၁ ခုနှစ်တွင် ဦးရီးတော် ထွင့်ခေါင်ဆရာတော်ကြီး၏ အမိန့်အရ ကောင်းမှုတော် မြောက်တောရကျောင်းတွင် ဦးစီးနာယကအဖြစ် တာဝန်ယူသည်။

၁၂၄၁ ခုနှစ်တွင် ထွင့်ခေါင်ဆရာတော်ကြီးက ခေါ်ယူတော်မူပြီး ခမ္ဘိကချောင်တွင် ဦးစီးနာယကအဖြစ် အပ်နှင်းသောကြောင့် ကောင်းမှု တော်တောရကျောင်းကို သင့်ရာတပည့်များအား လွှဲအပ်ကာ ခမ္ဘိက ချောင်သို့ ရွှေ့ပြောင်း သီတင်းသုံးတော်မူပါသည်။

## ကိုယ့်ကိုယ်ကို သနား

ဆရာတော်ကြီးသည် ခမ္ဘိကချောင်ကိုတာဝန်ယူ အုပ်ချုပ်နေစဉ် အခါ၌ ဆွမ်းကိစ္စ စသည်တို့ ပြီးသည်နှင့် တံခါးပိတ်ပြီး ကျောင်းခန်း အတွင်း၌သာ နေတော်မူသည်။

ဆွမ်း ယာဂုကို နံနက် တစ်ကြိမ်၊ နေ့ တစ်ကြိမ်သာ အပို့ခံ၍ ကျန်အချိန်များတွင် ကျောင်းတံခါးပိတ်၍ သီတင်းသုံးသည်။ နေ့ဆွမ်း

ဘုဉ်းပေးသော ဆွမ်းပွဲကို နောက်တစ်ရက်နံနက် ယာဂုဆွမ်းကပ်ချိန် ရောက်မှ ယူခွင့် ရကြသည်။

ရပ်နီး ရပ်ဝေးက ဒကာ ဒကာမများရောက်လာ၍ ဖိုးသူတော်က လျှောက်လာပါက ထွက်လိုသည့်အခါ တစ်ခဏမျှထွက်၍ အဖူးမြော် အကန်တော့ခံ၍ တရားစကားပြောဆိုဆုံးမတတ်၏။ မထွက်လိုသည့် အခါ ဆရာတော်ကြီး အိပ်နေတယ်ပြောလိုက်ဟု အမိန့်ရှိတတ်သည်။

ရောက်လာသော ဒကာ ဒကာမတွေက 'ကိုသူတော်ရယ်၊ ရပ်ဝေးက လာရတာ၊ သနားတော်မူပါဦး'ဟု ထပ်မံ လျှောက်ခိုင်းရာ ဆရာတော်ကြီးက 'ကိုယ့်ကိုယ်ကိုလည်း သနားရသေးတယ်'ဟု ပြော၍ ကျောင်းခန်းထဲက မထွက်ချေ။

တောတရား

အဆင်သင့်ရာ တရားများကို ဟောပြောပြီး လောကရေးရာ၊ လူမှုရေးရာများကို အသင့်အတင့်မေးပြီး မနှစ်သက်စရာများကို တွေ့ရှိတော်မူရာ –

'အို ကွယ်ရို့... ...ဟိုကြည့်လည်း ရှုပ်တုတ်တုတ်၊ ဒီကြည့်လည်း ရှုပ်တုတ်တုတ်ချည်းပဲ၊ အကောင်းတွေ ကုန်ပါပေါ့ကလားကွယ်ရို့။ ဒါကြောင့် ဒို့ဘုရားရှင်ဟာ မွေးတော့လည်း တောထဲ၊ ဒုက္ကရစရိယာ ကျင့်တော့လည်း တောထဲ၊ ဘုရားဖြစ်တော်မူတော့လည်း တောထဲ၊ ဓမ္မစကြာတရား ဟောတာလည်း တောထဲ၊ ပရိနိဗ္ဗာန်ပြုတော့ လည်း တောထဲမှာ ပြုတော်မူတာ။ တောကို အလွန်နှစ်သက်တော်မူ ပေတယ်။

တောထဲမှာနေရတာ နှစ်သက်လွန်းလို့ ဟောထားတာလေး ရှိပါသေးတယ် 'အရညဂတော ဝါ ရုက္ခမူလဂတော ဝါ သုညာဂါရဂတော ဝါ နိသီဒတိ ပလ္လင်္ကံ အာဘုဇိတွာ ဥဇုံ ကာယံ ပဏိဓာယ ပရိမုခံ သတိံ ဥပဋ္ဌပေတွာ' တဲ့ ဟု ဟောပြော အနက်ပေး၍ ကျောင်းခန်းအတွင်းသို့ ပြန်ကြွသွားတော်မူလေ့ရှိသည်။

## သူ့ပါးစပ်နဲ့ သူပြောတာ

'နိဗ္ဗာန်လိုလျှင်း၊ သူ့အတင်း၊ ပြောခြင်း ချိုးဖျက်ပါ'ဟု ပထမ ထွင့်ခေါင်ဆရာတော်ကြီး၏ဆုံးမစာသံပေါက်ကို ဒုတိယဆရာတော်က လေးစားသဖြင့် မည်သည့်အခါမျှ သူ့အတင်းကို မပြောချေ။ လာပြောသည်ကိုလည်း လက်မခံပေ။

ပထမဆရာတော်ကြီး ပျံလွန်တော်မူသော် ဒုတိယဆရာတော်က ဓမ္မိကချောင်၏ ဦးစီးနာယကအဖြစ် ဆောင်ရွက်တော်မူသည်။

ချောင်တွင် လက်ရှိရှိနေသောအချို့တပည့်ကြီးများမှာ တောထွက် ဆိုသော်လည်း အသက်ကလည်းကြီး၊ ဝါတော်လည်း မနည်းသည့် အပြင် ဒုတိယဆရာတော်နှင့် နီးနီးစပ်စပ်မနေဘူးသဖြင့် အနီးအနား ပတ်ဝန်းကျင်တွင် တိုက်တာခွဲ၍ နေကြ၏။

အချို့ရဟန်းကြီးများမှာ ဒုတိယဆရာတော်၏အပြစ်ကို ရှာကြံ ကြည့်ရှု၍ အကျိုးမဲ့စကားကို ပြောကြားလေ့ရှိပါသည်။

ထိုသို့ပြောသည်ကိုကြားသော တပည့်က ဆရာတော်ကြီးကို ဘယ်ပုဂ္ဂိုလ်ဟာ ဆရာတော်၏တိုက်အတွင်းမှာနေလျက် ဆရာတော်ကို မကောင်းကြောင်းပြောဆိုနေကြပါသည်ဟု လာရောက်တိုင်တန်းကြ

သည့်အခါ ဒုတိယဆရာတော်ကြီးက အလေးမမူဘဲ 'သူ့ပါးစပ်နဲ့ သူပြောတာပဲကွာ' ဟုသာ အမိန့်ရှိသည်။

နောက်ထပ်တစ်ဖန် ပြောကြပြန်သည်ကို မခံမရပ်နိုင်သော တပည့်များက လာရောက်လျှောက်ထားပြန်သောအခါ 'မင်းတို့ကျောင်းပေါ် လာနေသလား' ဟု မေး၏။ 'မနေပါဘုရား'ဟု ဖြေလျှင် 'သူ့ကျောင်းပေါ် သူနေပြီး ပြောတာပဲကွယ်'ဟုသာ ပြောတော်မူ၏။

ထပ်မံ၍ လျှောက်ထားလာကြပြန်သောအခါ 'သူတို့ကို မင်းတို့က ဆွမ်းခံ ကျွေးနေရသလား' ဟု ဆို၏။ 'မကျွေးရပါဘုရား'ဟု လျှောက်လျှင် 'ကိုယ့်ကျောင်းပေါ်လည်း တက်နေတာမဟုတ်၊ ကိုယ်က ဆွမ်းခံကျွေးနေရတာလည်း မဟုတ်၊ သူ့ပါးစပ်နဲ့သူပြောတာ ပြောပါစေကွယ်' ဟု အေးဆေး သက်သာစွာပင် အမိန့်ရှိတော်မူ၏။

အချို့ရဟန်းများမှာ ဓမ္မကတိုက်ကထွက်ပြီး သီးခြားတိုက်တာ တည်ထောင်နေထိုင်ကြသည်။ 'တိုက်၏ဥပစာနေရာကောင်း၌ ကျောင်းဆောက်နေကြပါသည်ဘုရား' ဟု လာရောက် တိုင်တန်းလျှောက်ထားကြပြန်ပါသည်။

ဒုတိယဆရာတော်ကြီးကား အေးအေးဆေးဆေးပင် 'တယ်လည်း ခက်ကြသကိုး တိုက်တာထဲ နေတော့လည်း နေပြန်ပြီ၊ ထွက်သွားပြန်တော့လည်း ဥပစာ ကျသတဲ့ ခက်လိုက်ပါဘိတော့၊ ကြောက်စရာကောင်းလိုက်ပါဘိတော့၊ ဒီလို စိတ်သဘော သေးသိမ်သူများဟာ ၂၀၀ ပြည့်နှစ် လျှောင်ကြီးလှုပ်စဉ်က တိုက်ပိ မသေတာ ကံကောင်းပေတယ်' ဟု အကျိုးလိုလား၍ပြောသူများကိုပင် အပြစ်သဘော မိန့်တော်မူလေသည်။

## စာတစ်ထွာ တစ်မိုက်

ဒုတိယဆရာတော်ကြီးသည် သက်တော် ကြီးရင့်လာချိန်၌ သူ့ထံပါးသို့ရောက်လာသော ရဟန်းတော်များကို စာလေးတစ်ထွာ တစ်မိုက်လောက် ဖတ်သွားစမ်းပါဦး၊ နာပါရစေဟု ဆိုကာ အလိုရှိသည့် ပေစာထုပ်ကို ပေးဖတ်စေပြီး နာယူ မှတ်သားလေ့ ရှိ၏။

# တပည့်များကို ဆုံးမခြင်း

## နေရာမကျ ဒုတ်နဲ့ချ

ဒုတိယ ထွင့်ခေါင်ဆရာတော်သည် မိမိထံမှောက်သို့ ရောက်လာကြသော တပည့်၊ ကျောင်းသား၊ သာမဏေများကို ရှေးဦးစွာ ရောက်လျှင် ရောက်ချင်းပင် တံမြက်စည်း၊ အမှိုက်တောင်း၊ ရေအိုး၊ ပန်းကန်ခွက်ယောက်မှအစ သုံးစွဲပုံ ထားသိုပုံများကို စနစ်တကျ သင်ပြပေးတော် မူသည်။

နောင်တစ်ချိန်၌ နေရာတကျမထားရှိက ဘာမျှမပြောဘဲ ခေါ်၍သာ ရိုက်လေ့ ရှိ၏။ ကျောင်းသား၊ သာမဏေတို့မှာလည်း ဘာကြောင့် အရိုက်ခံရသည် မသိ၊ စဉ်းစား၍သာ နေကြရသည်။ ဆရာတော်ကလည်း ၂ ရက်၊ ၃ ရက်ဆက်၍ တစ်စုံတစ်ရာမိန့်ကြားခြင်း မပြုဘဲနေသည်။ ထားသောပစ္စည်း နေရာကျသွားလျှင် ကိစ္စပြီးသွားသည်။ တပည့်၊ ကျောင်းသား၊ သာမဏေက မပြုမပြင် နေထိုင်ပါက ဆရာတော်ကြီးက ရှင်းလင်းသွန်သင်ပြသ၏။

ပထမ ထွင့်ခေါင်ဆရာတော်ကြီးက 'မင်းတို့သာသနာက ဒုတ်စောင့်နေတာကိုးကွ'ဟု ဆုံးမမှ ဆရာတော်လည်း ရိုက်နှက်ခြင်း အမှုကို စွန့်လွှတ်တော့၏။

## သစ်တစ်ပင်ကောင်း ငှက်တစ်သောင်း

ထိုခေတ် ထိုအချိန်က ထွင့်ခေါင်ဆရာတော်ကြီး၏ဘုန်းတန်ခိုးတော်ကြောင့် ရပ်ဝေး ရပ်နီးက ခမ္မိကချောင်ကို အသိများကြပါသည်။

အချို့လူများက ခမ္မိကချောင်အတွက်ဟု အကြောင်းပြကာ လိမ်ညာ အလှူခံနေကြသည်ကို ကြားသိသော တပည့်များက တားမြစ်ရန် လျှောက်ထားကြသောအခါ 'အိုဗျာ ဘုန်းကံမရှိတဲ့သူများဟာ ဘုန်းကံရှိသူများကို မှီပြီး စားကြရတာပါဗျာ'ဟု တိုတိုပင် ဆုံးမ၍ အရေးယူရန်မဟုတ်ကြောင်း အမိန့်ရှိတော်မူသည်။

## အထီး အမ ခွဲမရသော ကိစ္စ

ဆရာတော်ကြီးအား ဖူးမြော်ရန် အာဂန္တုရဟန်းတော် ၂ ပါး ကြွရောက်လာရာ ဆရာတော်ကြီးကလည်း အနီးတွင်ရှိသော သားရေနယ် ခင်းနှီးကို ခင်း၍ ထိုင်စေရာ မထိုင်ကြသဖြင့် အကြောင်းရင်းကို မေးရာ 'ဆရာတော်ကြီးသားရေမှာ နွားထီးရေ၊ နွားမရေ မသိ၍ မထိုင်သေးပါဘုရား' ဟု လျှောက်၏။

ဆရာတော်ကြီးကလည်း 'ဒီလိုဆို ကိုယ်တော်များ စီးလာတဲ့ ဖိနပ်များကိုတော့ ခွဲခြား သိရပါပြီလား' ဟု အမိန့်ရှိလိုက်ရာ အာဂန္တုကိုယ်တော်များလည်း ဆက်လက် မလျှောက်ထားဝံ့တော့ဘဲ ခေါင်းငိုက်ဆိုက်ချကာ ပြန်ကြွသွားကြတော့၏။

## ငိုမနေနဲ့ အပိုပဲ

တတိယဆရာတော်ကြီး၏ ရဟန်းအမသမီး ဒေါ်မ သည် ဖခင်ကြီး အနိစ္စရောက်သဖြင့် တန်ဆောင်မုန်းလ ကောင်းမှုတော် ဆွမ်းကြီးလောင်းလှူပွဲကို စိတ်ဖြောင့်ဖြောင့် မလုပ်နိုင်ဘဲ ငိုယို၍သာ နေ၏။

ငိုသံကို ဒုတိယဆရာတော်ကြီး ကြားတော်မူလျှင် အကြောင်းမေးရာ ဖခင်ကြီးသေရှာ၍ မယ်မ ငိုကြောင်း လျှောက်ထားကြသည်။

ဆရာတော်ကြီးက မယ်မ ကို ခေါ်ယူ၍ (မျက်ပျဉ်းကြီးကျနေသောကြောင့်) မျက်လုံးများကို ဖုံးအုပ်နေသည့် မျက်ခွံကို ဖွင့်လှန်ကြည့်ရှုတော်မူပြီး 'ငါ့ကို မနှစ်က မန်ကျည်းရွက်ကြမ်း တစ်ပြည်သားလောက် လှူစမ်းဟဲ့'ဟု အမိန့်ရှိသည်။

ထိုအခါ 'မနှစ်က မန်ကျည်းရွက်ကြမ်း ခု ဘယ်ရှိတော့မှာလဲဘုရား' ဟု ဒေါ်မ က လျှောက်လျှင် 'အေးကွယ်၊ မရတော့ဘူးဆိုရင်တော့ ငါ့မျက်စိလည်း ပျောက်မယ် မဟုတ်တော့ပါဘူး။ မနှစ်က မန်ကျည်းရွက်ကြမ်း တစ်ပြည်သာ ရနိုင်ရင် ဟောဒီမျက်ပျဉ်းကျရောဂါပျောက်မတဲ့လို့ ဆရာတစ်ယောက်က ပြောတာ၊ ဒါဆို မရတော့ဘူးပေါ့ဟုတ်လား' ဟု ထပ်မံ မေးပြန်၏။

ဒေါ်မက မရနိုင်ကြောင်းလျှောက်ထားပြန်သည့်အခါ 'အေးကွယ်၊ မရတော့တာအတွက် ဝမ်းနည်းပြီး ငိုနေလို့လည်း အပိုပါပဲ။ အခု ငိုနေလို့လည်း ဒကာမအဖေ ပြန်လာဦးမှာလား'ဟု မေးရာ 'မလာနိုင်တော့ပါ ဘုရား'ဟု ဖြေရသည်။

'မလာမှ မလာနိုင်တော့ဘဲနဲ့ အလကား အပင်ပန်းခံ ငိုနေရသေးတယ် မယ်မရယ်' ဟု အေးအေးလေးလေးကြီး မိန့်တော်မူရာ

ဒေါ်မယ်မလည်း တရားကျသွားတော့၏။

## တည့်တည့်ကြီးကို တိုးတာပဲ

ဒုတိယ ထွင့်ခေါင်ဆရာတော်ကြီးမှာ ကျောင်းအခန်းတံခါးပေါက်များကို ပိတ်၍သာ သီတင်းသုံးနေလေ့ ရှိပါသည်။

ပျံတော်မူချိန် နီးသောအခါ ကျောင်းခန်းတံခါးပေါက်အားလုံးကို ဖွင့်စေပြီး ခုတင်ကို အခန်းလယ်သို့ရွှေ့စေကာ ခုတင်ပေါ်တွင်ကျိန်းစက်တော်မူလျက် ဝမ်းထဲကပူကြောင်း အမိန့်ရှိသည်။

ထိုနောက် တပည့်များကို လက်ကို ဝိုင်း၍ပြပြီး 'ကြည့်ကြ၊ ကြည့်ကြ။ ဟောဒီ အဝိုင်းထဲကို တည့်တည့်ကြီး တိုးဝင်သွားကြရတာပဲ မောင်တို့။ ဘယ်သူမှ ရှောင်လို့ ကွင်းလို့ မသွားနိုင်ကြဘူး။ သတိရှိကြ၊ သတိရှိကြ' ဟု သေလွန်ခြင်းတရားကို လက်တွေ့ ပြသတော်မူ၏။

ထိုသို့ တရားဓမ္မကို လက်တွေ့ မျက်မြင် ပြသပြီး မကြာမီ ၁၂၆၅ ခု၊ တန်ဆောင်မုန်း လပြည့်ကျော် ၁၀ ရက်နေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူ၏။

ဈာပနကိစ္စ အဝဝကို ဆောင်ရွက်ကြပြီးနောက် ကျောင်းလမ်းမကြီး၏ဘေးက ရှေးဟောင်းအုတ်တိုက်ပျက်ကြီးကို ရှင်းလင်းကာ ထိုနေရာတွင် ဒုတိယ ထွင့်ခေါင်ဆရာတော်ကြီး၏ အရိုးအိုးစေတီကို တည်ထားကြသည်။

သီတင်းကျွတ်လပြည့်နေ့တိုင်း သံဃာတော်များက ဆွမ်းတော်ကြီးကပ်၊ မီးပူဇော်ပွဲကို အဆက်ဆက် ဆက်လက်ကျင်းပကြပါသည်။

# ဒုတိယ ထွင့်ခေါင်ဆရာတော် အရှင်ဇိနဝံသ ၏ ကမ္မဋ္ဌာန်းသံပေါက်

၁။ ခန္ဓာ ကိုယ်ရုပ်၊ အကောင်ပုပ်၊ စက်ဆုပ် ရွံစရာ။
၂။ ဒွါရကိုး၀၊ ယိုစီးကျ၊ ပြင်ပ ရောက်သောခါ။
၃။ လက် မထိချင်၊ နှလုံး နင်၊ မြင်လျှင် အခါခါ။
၄။ သုံးဆယ့်နှစ်ခု ၊ အပေါင်းစု၊ ကိုယ်ဟု ခေါ်ဝေါ်ရာ။
၅။ တစ်ခုချင်းပြ၊ ပိုင်းခြားက၊ ဘာမျှ မဟုတ်ပါ။
၆။ အသုဘ စစ်၊ ကေန်ဖြစ်၊ စင်စစ် သိစိမ့်ငှာ။
၇။ အရိုး တောင့်တယ်၊ အကြော တွယ်၊ အံ့ဖွယ် သူ့ခြင်းရာ။
၈။ အသွေး အသား၊ လိမ်းကျံထား၊ ပေါ်ဖျား အရေကာ။
၉။ ချွဲခန်း ပြည် သွေး၊ နှပ် တံတွေး၊ မျက်ချေး ထဲကလာ။
၁၀။ ကျင်ငယ် ကျင်ကြီး၊ ယိုထွက်စီး၊ ဒီးဒီး ကျသည်သာ။
၁၁။ နေ့ည သုတ်သင်၊ ဆေး သန့်စင်၊ ပြီးလျှင် ထပ်ခါခါ။
၁၂။ သို့ပင်မှန်စွာ၊ ကိုယ့်ခန္ဓာ၊ တတ်ရာ မသိပါ။
၁၃။ ငါးပိအိုးတွင်၊ ပိုးလောက်လျှင်၊ အိမ်ရှင် သူ့နေရာ။
၁၄။ စိမ်းရွှေ ချဉ်စုတ်၊ လေပုပ်ချွေးယို၊ ဥဒဟို၊ စိမ့်စို စမ်းပမာ။

၁၅။ ဓာတ်လေးပါးရုပ်၊ အကောင်ပုပ်၊ ဟုတ်ယောင် ထင်ကြရှာ။

၁၆။ မမ မောင်မောင်၊ ဖွဲ့နွဲ့ယောင်၊ ပုပ်ကောင် ညွှန်တဏှာ။

၁၇။ ပညာမယှဉ်၊ ဉာဏ်မမြင်၊ နားတွင် ချိုဆိမ့်သာ။

၁၈။ တန်ဆာ ရစ်ခြယ်၊ မျက်လှည့်သယ်၊ သွယ်သွယ် ကျင်းပရာ။

၁၉။ မျက်စိနှင့် နား၊ အထင်မှား၊ တရား လုံလုံးကွာ။

၂၀။ ပေါယံ ရစ်ဖုံး၊ အပုပ်တုံး၊ ယူကြုံး မရရာ။

၂၁။ မိန်းမ ယောကျ်ား၊ တဏှာပွား၊ ရှုစား မက်မောကာ။

၂၂။ ရာဂ ထိုးကြိတ်၊ မောဟပိတ်၊ အရိပ် မသိပါ။

၂၃။ ကာမစည်းစိမ်၊ တင်းမတိမ်၊ ကြိမ်ကြိမ် ယစ်မူးရှာ။

၂၄။ ညိုကျို နံဟောင်၊ အပုပ်ကောင်၊ ကိုင်ယောင် ပိုက်ပွေ့ကာ။

၂၅။ နံသာ ကိုယ်လုံး၊ ပုံ၍ ဖုံး၊ မိုးလုံး ထိအောင်ကာ။

၂၆။ ထဲက ပုပ်သိုး၊ အနံ့ဆိုး၊ ဆန်ကျိုး မပျောက်ပါ။

၂၇။ မစင် ညှီဟောက်၊ ယင်နှင့် လောက်၊ ဝမ်းမြောက် တသာသာ။

၂၈။ မိန်းမ ယောကျ်ား၊ ထိုအလား၊ ပျော်ပါး တဟာဟာ။

၂၉။ လက်ဦတင်ပြ၊ ဆိုသမျှ၊ နားက စေ့စေ့နာ။

၃၀။ ယောကျ်ား မိန်းမ၊ သတ္တ ဇီဝါ၊ သူငါ မမှတ်၊ လူနတ်မဟုတ်၊
မိန့်တော်ထုတ်၊ ဓာတ်ရုပ် ကိုယ်ခန္ဓာ။

၃၁။ အနိစ္စ, ဒုက္ခ၊ အနတ္တ၊ မုချ သိမှသာ။

၃၂။ ဤသို့ထင်မှ၊ ပဏ္ဍိတ၊ သုခ နိဗ္ဗုတာ။

၃၃။ ယထာဘူတ၊ အခြေရ၊ ဉာဏ နိဗ္ဗိန္ဒာ။

၃၄။ ယထာဘူတ၊ ဉာဏ် ဉာဏ၊ သိကြစေဖို့ရာ။

၃၅။ ဤလောက ဉာဏ်၊ အရင်းသန်၊ လေးတန် မဂ်ပညာ။

၃၆။ မဂ်၏ခဏ၊ ဖိုလ်သို့ကျ၊ သိဝ နိဗ္ဗာန်ရွာ။

၃၇။ စကားဆိုသမျှ၊ နိဗ္ဗာန၊ လမ်းပြ မှတ်ကြပါ။
၃၈။ တစ်နေ့ တစ်ခြား၊ အရွယ်သွား၊ မထား သတိမှာ။
၃၉။ ဇရာ ခိုးသား၊ ပုံနှင့်ထား၊ မခြား တူလှစွာ။
၄၀။ အကြောပြိုင်းပြိုင်း၊ အရိုးခိုင်း၊ တည်တိုင်း မနေပါ။
၄၁။ သွားက ယိုင်လဲ၊ အကြောဆွဲ၊ ခါးမွဲ ကုန်းကော့ကာ။
၄၂။ထကြွ ပြင်တိုင်း၊ စိတ်ကခိုင်း၊ လိုတိုင်း သူမပါ။
၄၃။ စားသောက်မဝင်၊ ဆန့်ငင်ငင်၊ သီးနင် မျိုမပါ။
၄၄။ နော့နဲ့ နာကျင်၊ ကိုက်ခဲလျှင်၊ ထွက်ဝင် သွားကြားမှာ။
၄၅။ သွားကြား ဒုတ်ကျိုး၊ ကိုင်၍ထိုး၊ သွားကျိုး ကျဲချောင်ခါ။
၄၆။ နှုတ်ရေငုံကျင်း၊ ထွေးသန့်ရှင်း၊ သွားရင်း အေးကျဉ်နာ။
၄၇။ ရသာထွေပြား၊ အပါးပါး၊ ယောင်စား စားချင်ရှာ။
၄၈။ နှစ်နှစ်သက်သက်၊ မမြိန်ရှက်၊ လေးနက် မသိပါ။
၄၉။ လောဘ တဏှာ၊ ဥပါဒါ၊ စွဲလာ ပြုပြီးခါ။
၅၀။ ဘယ်ဟာ ကောင်းနိုး၊ လောဘမျိုး၊ ဟုတ်နိုး ရှာရှာ။
၅၁။ သွားချိန်နီးလှ၊ ခရီးပြ၊ သေရတော့မကြာ။
၅၂။ ဇရာလာရောက်၊ သူမွေနှောက်၊ ကြောက်ကြ သူတကာ။
၅၃။ လက္ခဏာတင်၊ နိဗ္ဗာန်ဝင်၊ လျင်လျင် သွားကြပါ။
၅၄။ အို, နာ, သေရ၊ ကံ သုံးဝ၊ ဗုဒ္ဓ မလွတ်သာ။
၅၅။ မြတ်စွာဘုရား၊ မိန့်မှာထား၊ ထင်ရှား ဒေသနာ။
၅၆။ အနာဆေးရှိ၊ သမားသိ၊ သောက်မိချေမှသာ။
၅၇။ သတိပဋ္ဌာန်၊ ဆေး လေးတန်၊ မှန်အောင် သုံးကြပါ။
၅၈။ တစ်နေ့တစ်ခြား၊ သုံးဆောင် စား၊ ဆေးကား အကျိုးမှာ။
၅၉။ ကိလေသာပူ၊ ရောဂါနူ၊ ကိုင်ယူ ပစ်သို့သာ။

၆၀။ မယုံကြလျှင်၊ မှတ်ကျောက်ပြင်၊ တင်၍ သုံးကြပါ။
၆၁။ သတိပြုလေ၊ အနာရွေ၊ အခြေ ပြတ်မည်သာ။
၆၂။ တိုး၍သောက်က၊ နူနာပ၊ လှ၏ သော့မကြာ။
၆၃။ စေတနာပေါ်ပေါ်၊ ဟုတ်တိုင်းပြော၊ သဘောပိုက် ကြပါ။
၆၄။ ဆရာတို့လမ်း၊ ဆေးအစွမ်း၊ ဆုံးခန်း ရောက်အောင်သာ။
၆၅။ သူနာ တစ်ယောက်၊ ဝင်၍သောက်၊ ပျောက်သည့် ထိုအနာ။
၆၆။ အစားမရှောင်၊ နားမထောင်၊ အမောင့် ကံကြမ္မာ။
၆၇။ သမားလက်လျှော့၊ သူနာ ပေါ့၊ သွားရော့ မောင့်ဘာသာ။
၆၈။ ဆရာ့အိတ်လွယ်၊ နောက်ပစ်ပယ်၊ လွဲဖယ် သွားသောခါ။
၆၉။ စကားစသတ်၊ အပြီးရပ်၊ မှတ်လေ နိဋ္ဌိတာ။
၇၀။ ရတနာထွင့်ခေါင်၊ ဘွဲ့တန်ဆောင်၊ ထွန်းပြောင် နေသို့သာ။
၇၁။ ဒုတိယ မည်သာ၊ ထေရ်မဟာ၊ ဤစာ ရေးခဲ့တာ။
၇၂။ အမျိုးလေးပါး၊သူတို့ကား၊များဖို့အကျိုးငှာ။ (တိုးပွားစေဖို့ရာ)
၇၃။ ခုနစ်ဆယ့် သုံးသွယ်၊ ကဗျာချယ်၊ ဤဝယ် နိဋ္ဌိတာ။ ။

  

# တတိယ ထွန့်ခေါင်ဆရာတော် ဘဝဖြစ်စဉ်

## ဇာတိနှင့် မိဘ

စစ်ကိုင်းမြို့၊ ပွဲဆိပ်ရပ်၊ ခမည်းတော် ဦးဖေ – မယ်တော် ဒေါ်ရွှေနှစ်တို့က ၁၂၃၃ ခု၊ တပေါင်းလပြည့်ကျော် ၁၅ ရက်၊ သောကြာနေ့တွင် တတိယ ထွန့်ခေါင်ဆရာတော် လောင်းလျာ မောင်စိန်ဖူးကို ဖွားမြင်ပါသည်။

## ဝိပါက်တော် ဆိုက်ရောက်ခြင်း

မောင်စိန်ဖူး ကို ဖွားမြင်၍ မကြာမီမှာပင် မယ်တော် ဒေါ်ရွှေနှစ် ကွယ်လွန်၏။ ၃ – နှစ်သား အရွယ်မှာ မျက်စိရောဂါ ကျရောက်ကာ မျက်စိအစုံ ကွယ်ရှာသည်။

ခမည်းတော် ဦးဖေက သားဖြစ်သူကို အသက်မွေးဝမ်းကျောင်းစေသောငှာ ဘဝတူ မျက်မမြင်များနှင့်အတူ အတီးအမှုတ်ပညာကို သင်ယူစေ၏။

တတိယ ဆရာတော်လောင်းလျာ ကလေးသည် ငယ်စဉ်အခါက အတီးအမှုတ်ခေါင်းဆောင် မျက်မမြင်ဆရာကြီးနှင့်အတူ မြင်းမူမြို့နယ်က ရွာတစ်ရွာသို့ ဆိုင်းတီးငှား၍ သွားကြရာ လမ်းခရီးတွင် နောက်ပြောင်လိုသူ တစ်ဦးက 'ဆင်လာတယ်၊ ဆင်လာတယ်' ဟု အော်ဟစ်လေရာ မျက်မမြင်ကလေးများ အားလုံးမှာ တိုးမိတိုးရာ

တို့ရ ပြေးရသဖြင့် အလဲလဲအပြိုပြိုဖြင့် ဒုက္ခကြီးစွာရောက်ကြရရှာလေ၏။

## ဟိုဟိုဒီဒီ ရွှေ့ကာ ပြောင်းကာ

ခမည်းတော်ကြီးဦးဖေ သည် အိမ်ထောင်ပျက်စီးပြီးနောက် စစ်ကိုင်းတွင် အတည်တကျမနေနိုင်ဘဲ မြင်းမူ၊ ဝန်းသို၊ စစ်ကိုင်းမြို့များကို လှည့်လည်သွားလာ အသက်မွေး ဝမ်းကျောင်းရရှာ၏။ ထိုသို့သွားလာရင်း နောက်အိမ်ထောင် ထူထောင်သည်။ သားချစ်မောင်စိန်ဖုူးကိုလည်း ဘိုးလေးတော်သည့် ကောင်းမှုတော် တောကျောင်းဆရာတော် ဦးဇိနဝံသ ထံတွင် အပ်နှံ ပညာဆည်းပူးစေပါသည်။

## သာမဏေ ဘဝသို့

မောင်စိန်ဖူး ၈ နှစ်သားအရွယ်သို့ ရောက်သောအခါ ဖခင်ဦးဖေက ဦးဇိနဝံသ ထံမှာပင် ရှင်သာမဏေအဖြစ်ကို ချီးမြှောက်စေပါသည်။ သာမဏေဘွဲ့တော်မှာ ရှင်သုဒဿန ဖြစ်၏။

တတိယဆရာတော် သာမဏေဘဝရောက်၍ မကြာမီမှာပင် အရှင်ဇိနဝံသ သည် ထွင့်ခေါင်ဆရာတော်ကြီး၏ တာဝန်ပေးချက်အရ ခမ္မိကချောင်သို့ နာယကအဖြစ်ကြွရောက်သဖြင့် ရှင်သုဒဿနသည် ကောင်းမှုတော် တောကျောင်း၌ ကျန်နေရစ်တော့သည်။

ကောင်းမှုတော် တောကျောင်းမှာပင် ပညာဆက်လက် သင်ယူနေခဲ့ရာ ကောင်းမှုတော်တောင်ဘက် ဒက္ခိဏာဝန်တိုက် က ဘုန်းကြီးဦးပုညသည် ကိုရင်၏ အသံသြဇာမှာ သာယာနာပျော်ဘွယ်ဖြစ်သော

ကြောင့် တရားစာများကို သင်ကြားပို့ချပေးသည်။

တတိယဆရာတော်လေးမှာ မျက်စိအမြင်မရှိသဖြင့် ဘုန်းကြီး ဦးပုည က အလွတ် မရမချင်း စိတ်ရှည်လက်ရှည် နှုတ်တိုက် ချပေး သည်။ တရားမျိုးစုံ၊ ရေစက်ချအမျိုးမျိုးကို အလွတ် ရတော်မူ၏။

ကိုရင်ဘဝက ဘုန်းကြီး ဦးပုည ချပေးခဲ့သော တရားကို မေ့ပျောက်ခြင်းမရှိဘဲ နှစ် ၃၀ ကျော် ၄၀ နီးပါးမျှ ကြာသည့်တိုင် ပြန်လည် ဟောပြနိုင်ပါသည်။ သတိ အလွန်ကောင်းတော်မူ၏။ ၁၀ နှစ်၊ ၁၅ နှစ် ကျော်က တစ်ခါတွေ့ဖူးသော ဒကာကို ထပ်မံရောက်လာ တွေ့ရှိကလည်း မှတ်မိတတ်လေ့ ရှိသည်။

## ရဟန်းအဖြစ်သို့

၁၂၅၃ ခုနှစ်တွင် မန္တလေးမြို့၊ လက်ဆည်ကန်ရပ်နေ ကုန်သည် ဒါယိကာမကြီး ဒေါ်ကြီး၊ သား ကိုလှဘော်၊ ကိုဘိုးသောင်၊ သမီး မမယ်မ၊ မမယ်မြ၊ မမယ်သန့် တို့က ပစ္စယာနုဂ္ဂဟအဖြစ် ခံယူပြီး တတိယဆရာတော်ကလေး ရှင်သုဒဿန ကို ရဟန်းအဖြစ် ပြု သည်။ ဒုတိယ ဆရာတော်ကြီး ဦးဓိနဝံသ က ဉပဇ္ဈာယ်ပြုတော်မူ၏။

## ပညာသင်ယူခြင်း

ရဟန်းအဖြစ်သို့ရောက်တော်မူပြီးလျှင် မန္တလေးမြို့အနောက်ပြင် ဒက္ခိဏာဝန်တိုက်၊ ခင်မကန်တိုက် အုတ်လှေကားကျောင်းတို့တွင် သီတင်းသုံးကာ ၉–ဝါတိုင်တိုင် ပညာဆည်းပူးပါသည်။

အရှင်သုဒဿနမှာ ဉာဏ်အလွန်ကောင်းသောကြောင့် စာပေသင်ယူရာ၌ ခက်ခဲသည် မရှိပါ၊ သဒ္ဒါ သင်္ဂြိုဟ် ဩဝါ စသည်တို့ကို လွယ်ကူစွာပေါက်ရောက်သည့်အပြင် လက်အောက် ကျောင်းသား၊ သာမဏေများကို ပို့ချပေးနိုင်ပါသည်။

## ခမ္မိကချောင်သို့

ဒုတိယ ထွင့်ခေါင်ဆရာတော်ကြီးက ခမ္မိကချောင်၏ကိစ္စအဝဝကို လွှဲအပ်လိုသဖြင့် ၁၂၆၂ ခု၊ ဝါဆိုဦးတွင် ခေါ်ယူတော်မူသည်။

မန္တလေးမြို့တွင် ပညာသင်ယူနေရာမှ ခမ္မိကချောင်သို့ ရွှေ့ပြောင်းရတော့မည် ဆိုသောအခါ အရှင်သုဒဿနသည် သင့်လျော်ရာ ဆရာတော်ကြီးများကို သွားရောက်ကန်တော့ကာ အဆုံးအမများကို နာခံတော်မူ၏။

ခင်မကန်တိုက် ထိန်ပင်ကျောင်း ဆရာတော်ကြီးက အရှင်သုဒဿနကို 'လူကြီးဖြစ်တော့မယ်၊ လောဘကိုသတိထား။ လောဘဆိုတာ တယ်ကြီးတယ်။ သူက မာလောနွယ်လိုပဲ'ဟု အမိန့်ရှိတော်မူသည်။ မာလောနွယ်ဟူသည်မှာ တွေ့ရာအပင်ကို တွယ်လည်းတက်တတ်၏။ အပင် စိုသည်ဖြစ်စေ၊ ခြောက်သည်ဖြစ်စေ၊ ဆူးပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ တွေ့ကရာအပင်ကို ရစ်တွယ်တက်တတ်သလို လောဘဆိုသည်လည်း ဆိုးကောင်းမရွေး ငြိတွယ်တတ်ကြောင်း ဆုံးမခြင်း ဖြစ်၏။

တတိယဆရာတော် ခမ္မိကချောင်သို့ရောက်ချိန်၌ ဆရာတော်ကြီးကို ပြုစုနေကျ တိုက်အုပ်ဆရာတော် ဦးဝိမလကြီး လူထွက်သည်နှင့်

တိုက်ဆိုင်နေသည်။ အရှင်သုဒဿန နှင့် အတူ မန္တလေးက နောက်ပါ တပည့်အချို့လည်း အတူပါလာခဲ့ရာ ဒုတိယဆရာတော်ကြီးကို မကြောင့်မကျ ပြုစုခွင့် ရတော့၏။

## ကျောင်းနေရာပြောင်းခြင်း

ဒုတိယ ဆရာတော်ကြီးပျံတော်မူသည့်အခါ ယခင် သိတင်းသုံးရာ အထက်ပိုင်း သိမ်တော်ကြီးအောက်မှ မှန်ကျောင်းတော်၏အနောက် ဘက်ရှိ နန်းကျောင်းကုန်းတော်ပေါ်သို့ ပြောင်းရွှေ့သည်။

နန်းကျောင်းကုန်းတော်ပေါ်က ကျောင်းကြီးမှာ အိုမင်းနေသဖြင့် ၁၂၈၃–ခုနှစ်တွင် ဦးသိန်းနှင့် မောင်နှမများက ကျောင်းကြီးကို အသစ်တစ်ဖန် မွမ်းမံ လှူဒါန်းကြ၏။

## ဆတော်လေး

တတိယ ထွဋ်ခေါင်ဆရာတော်ကို ရဟန်းပရိသတ်၊ လူပရိသတ် တို့က ဆရာတော်လေး 'ဆတော်လေး'ဟု အသိအမှတ်ပြု ခေါ်ဝေါ် ကြသည်။

သပြေကန်နိသျကြီးကို ပြုစုတော်မူသည့် သပြေကန်ဆရာတော် ဦးဥက္ကံသနှင့် ဆရာတော်ကလေးတို့မှာ ခင်မကန်တိုက်တွင် ပညာ သင်ခဲ့စဉ်ကတည်းက ရင်းနှီး ကျွမ်းဝင်ကြသည်။

သပြေကန်ဆရာတော်က သူ့ဇာတိ ရပ်ရွာဖြစ်သည့် စကျင် မြွေပုံကန်သို့အသွား ခမ္မိကချောင်သို့ နောက်ပါဒကာများနှင့်လာလေ့ ရှိသည်။ လူချင်း မကြာခဏ မတွေ့ကြသော်လည်း စာများ၊

စာအုပ်များ၊ သတင်းစကားများ ပေးပို့ဆက်သွယ်နေကြ၏။

## လမ်းနေရင် အနင်းခံရမယ်

တစ်ခါသော် သပြေကန်ဆရာတော်က နောက်ပါတပည့်များနှင့် ခမ္မိကချောင်သို့ကြွလာ၏။

ထိုအချိန်တွင် ဆရာတော်ကလေးက ကုဋီသွားနေသောကြောင့် ရုတ်တရက်မတွေ့ပေ။ နောက်ပါတပည့်ဒကာများက ကျောင်းတိုက်အတွင်း၌ လှည့်လည် ကြည့်ရှုနေကြ၏။ သပြေကန်ဆရာတော်က နောက်ပြောင်လိုသောကြောင့် ဆရာတော်လေးပြန်ကြွမည့်လမ်းပေါ်၌ ဝပ်လျက်နေပါသည်။ မျက်စိအမြင်မစွမ်းသဖြင့် တက်နင်းမိလေရာ သပြေကန်ဆရာတော်က 'ကိုယ်တော် လူမမြင်ဘူးလား' ဟု ပြောရာ 'လမ်းနေရင်တော့ အနင်းခံရမှာပဲ' ဟု မိန့်တော်မူ၏။

သပြေကန် ဆရာတော်ကြီး ပြုစုသော ကစ္စာနသံခိပ်နိသျကျမ်းတွင် သုတ်အမည်ကို မရေးဘဲ သုတ်နံပါတ်စဉ်သာ ရေးထိုထားခြင်းကြောင့် စာသင်သားများ အရှာရခက်နေပုံကို ဝေဖန်မိန့်ကြားတော်မူ၏။

ဆရာတော်လေးမှာ ရှေးဟောင်း၊ နှောင်းဖြစ်၊ စကားဟောင်း၊ ဆရာတော်ကြီးများ အကြောင်းတို့ကို အလွန် မှတ်သားမိတတ်၍ နှုတ်မဆိတ် ပြောဆိုလျှင် အလွန်ပင် နာယူ၍ ကောင်း၏။

## လွှဲပြောင်း ခွဲဝေ အပ်နှံခြင်း

၁၂၉၈ ခု၊ တပေါင်းလ၊ ကောင်းမှုတော်ပူဇော်ပွဲ အပြန်တွင် ဆရာတော်လေး၏ လည်ချောင်းရောဂါက ပိုမို ပြင်းထန်လာသည်။

ဆရာတော်လေးလည်း မိမိပိုင်ပုဂ္ဂလိကပစ္စည်းများကို ဦးသုဝဏ္ဏ ပါ ၄–ပါးကိုလှူပါ၏၊ ပေးပါ၏ဟု ဝိနည်းကံနှင့်အညီ လွှဲအပ်တော်မူသည်။

ဦးသုဝဏ္ဏ ပါ ၄ပါးကလည်း လက်ခံပါ၏ဟု လက်မှတ်ရေးထိုးကြသည်။ သုဒိန္န – သုဂ္ဂဟိတ သက္ခဏာနှင့်အညီ ပြုခြင်းဖြစ်၏။

တတိယ ဆရာတော်မှာ လည်ချောင်းရောဂါ သည်းစွာခံစားရချိန်တွင် တပည့်များက 'ဆရာတော်ဘုရား၊ ကျန်းမာ ချမ်းသာပါရဲ့လားဘုရား' ဟု လျှောက်ထားသောအခါ 'သဗ္ဗကာလံ ဒုလ္လဘံ သုခံ ,ဆိုသကိုးကွယ့်၊ အခါခပ်သိမ်းတော့ ဘယ်မှာချမ်းသာသည်ရှိမလဲ' ဟုရယ်ကာ မောကာ ပြောလေ့ ဆုံးမလေ့ရှိပါသည်။

မရဏာမင်းလက်သို့

၁၂၉၉ ခု၊ ပထမဝါဆိုလဆုတ် ၇–ရက်နေ့ ၃–နာရီ အချိန်၊ သက်တော် ၆၆ နှစ်၊ သိက္ခာတော် ၄၆ ဝါတွင် မရဏာမင်းလက်သို့ သက်ဆင်းတော်မူရ၏။

တတိယ ဆရာတော် ပျံတော်မူသောအခါ ဦးသုဝဏ္ဏ က ဆရာတော် လွှဲအပ်ပေးခဲ့သည့် ပစ္စည်းများအနက် ဥယျာဉ်မြေမှာ မြေပုံတွင် ပုဂ္ဂလိကသဘောဖြစ်နေ၍ သံသယဖြင့် ခြွင်းချက်ထားကာ ကျန်ပစ္စည်းများကို သံဃိက ပုဂ္ဂလိကခွဲခြား၍ ကျန်ပုဂ္ဂိုလ် ၃ ပါးကို ခွဲဝေယူကြရန် ပေးအပ်လိုက်သည်။

ဥယျာဉ်မြေကိုလည်း ဆရာတော်များသဘောကျသည့်အတိုင်း ဆရာတော်ကြီးသုံးစွဲရင်းကဲ့သို့ ဘုရားပွဲ ၄ပွဲကို အချိုးကျခွဲဝေရန် ဘုရားပွဲ ဝတ္ထုကမြေအဖြစ် သဘောတူသတ်မှတ်လှူဒါန်းလိုက်ကြတော့၏။

# စတုတ္ထ ထွဋ်ခေါင်ဆရာတော်

တတိယ ထွဋ်ခေါင်ဆရာတော်ကြီး ပျံတော်မူသည့်အခါ ဗျာပန ကိစ္စအဝဝကို ဆောင်ရွက်ကြပြီးနောက်၊ ဓမ္မိကချောင်တွင်အုပ်ချုပ်မည့် အကြီးအကဲ မရှိသေးသဖြင့် သံဃာစုံညီ တိုင်ပင်စည်းဝေးကြပြီးနောက် သက်တော်၊ ဝါတော်ကြီးရင့်သော ဦးသုဝဏ္ဏကို စတုတ္ထ ထွဋ်ခေါင် ဆရာတော်အဖြစ် ဓမ္မိကချောင် သံဃနာယကအဖြစ် တင်မြှောက် ကြ၏။



## ဇာတိ နှင့် မိဘ

စတုတ္ထ ထွဋ်ခေါင် ဆရာတော်လောင်းလျာ မောင်စံအေး ကို ၁၂၄၈ ခု၊ တော်သလင်းလဆန်း၊ ၁၃ ရက်၊ သောကြာနေ့ ၃ – နာရီ အချိန်တွင် စစ်ကိုင်းမြို့ မြောက်ဘက် ၆ မိုင်အကွာ ကျောက်တာ မြောက်ရွာတွင် တောင်သူကြီး ဦးတုတ်ကြီးနှင့် ဒေါ်ရွှေနှစ်တို့က ဖွားမြင်သည်။ သားသမီး ၄ယောက်အနက် အထွေးဆုံး ဖြစ်၏။ မောင်စံအေး၏အထက်တွင် မအိမ်ကောင်း၊ မအိမ်မြဲ၊ မောင်စံရွှေတို့ ဖွားမြင်သည်။

## မိတဆိုး ဘဝ

မောင်စံအေး ၁၀ လသားအရွယ်တွင် မိခင် ဒေါ်ရွှေနှစ် ကွယ်လွန်သဖြင့် (ဒေါ်ရွှေနှစ်၏ အစ်မ) ဒေါ်အိ က ကျွေးမွေးပြုစုစောင့်ရှောက်ရသည်။ အဘိုးနှင့် အဘွားတို့လည်း ရှိကြသေး၍ မောင်စံအေးကို စောင့်ရှောက် ကြသည်။

မိတဆိုး မောင်စံအေးကို တောရွာအလိုက် အခြားသားသည်အမေများက နို့တိုက် မွေးမြူပေးရ၏။ အတန်အသင့် ကြီးလာသောအခါ ဘိုးလေးတော်က နွားနက်မကြီးတစ်ကောင်ကိုဝယ်ပေးပြီး နွားနို့ဖြင့် မောင်စံအေးကို မွေးမြူခဲ့ကြသည်။

မောင်စံအေးသည် ရွာလယ် ဝင်းကြီးသားဖြစ်သည်အားလျော်စွာ သေသေသပ်သပ် ဝတ်စားနေထိုင်တတ်သဖြင့် မြင်သူတကာက သနားချစ်ခင်ကြသည်။ ၈ – နှစ်သားအရွယ်ရောက်သောအခါ ရွာရင်း ဘုန်းတော်ကြီးထံတွင် အပ်နှံ၍ စာပေ သင်ယူရပါသည်။

## သာမဏေ အဖြစ်သို့

၁၂ နှစ် အရွယ်သို့ရောက်သောအခါ မောင်စံအေးကို ရွာရင်း ဆရာတော်ကျောင်းမှာပင် သာမဏေအဖြစ် သွတ်သွင်းချီးမြှင့်သည်။ ဘွဲ့တော်မှာ ရှင်သုဝဏ္ဏ ဖြစ်၏။ ကိုရင်အဖြစ် တစ်နှစ်ကြာသော် ဦးရိုးတော်ဘုန်းကြီး သီတင်းသုံး နေထိုင်သော သိမ်ကျောင်းသို့ ပြောင်းရွှေ့သည်။

ရှင်သုဝဏ္ဏ ၁၄ – နှစ်သားအရွယ်၌ ကောင်းမှုတော်ပူဇော်ပွဲသို့ ကြွလာသော ဆရာတော်ကလေး ဦးသုဒဿန က မန္တလေးသို့ ခေါ်ဆောင်သွားသဖြင့် အနောက်ပြင် ခင်မကန်တိုက် အုတ်လှေကား

ကျောင်း၌ သိတင်းသုံး၍ စာပေပရိယတ္တိများ ဆည်းပူးသင်ယူတော်မူသည်။

ဆရာတော်ကလေးကို ဒုတိယ ဆရာတော်ကြီးက ခမ္မိချောင်သို့ ခေါ်ယူတော်မူသည့်အခါတွင်လည်း ရှင်သုဝဏ္ဏသည် လိုက်ပါမသွားဘဲ ခင်မကန်တိုက်တွင်ပင် ပညာဆက်လက်သင်ယူနေရစ်၏။ ကိုရင်သုဝဏ္ဏမှာ ကျက်ဉာဏ် နက်နဲပြီး သဘောဉာဏ်သာ ပါသဖြင့် သူတစ်ပါးနှင့် အတူလိုက်ရန် ဝီရိယအတော်စိုက်ရသည် ဆို၏။

ကိုရင်ဘဝနှင့် ပန်းတနော်မြို့နယ်၊ အင်းတကောရွာ ကျောင်းထိုင်ဆရာတော် ဦးပညာသာမိ ထံတွင်လည်း ပညာဆည်းပူး၏။ သိမ်ကျောင်းဆရာတော်က ပြန်ပင့်သောကြောင့် မန္တလေးသို့ပြန်ကြွလာကာ ခင်မကန်တိုက်၌ပင် သိတင်းသုံး နေထိုင်၏။

## ရဟန်းဘဝ

သက္ကရာဇ် ၁၂၆၇ ခု၊ တပို့တွဲလဆန်း ၁၀ ရက်နေ့၊ ၈ နာရီအချိန်တွင် စစ်ကိုင်းမြို့ ထူပါရုံ ရွှေကျောင်းဆရာတော်ကြီးကို ဥပဇ္ဈာယ်ပြုကာ ရဟန်းအဖြစ်သို့ရောက်သည်။ စစ်ကိုင်းမြို့ ခဝဲရုံရပ် ဦးလူဖေနှင့် တတိယဆရာတော်၏ အဒေါ်အရင်းဖြစ်သူ ဒေါ်နှင်းပွင့်၊ ညီမ ဒေါ်စိန်၊ ဒေါ်ကြွယ်၊ မောင် ကိုလူလေးတို့က ပစ္စယာနုဂ္ဂဟအဖြစ် ရဟန်းဒကာ ခံယူကြ၏။

## ပညာဆည်းပူးခြင်း

ရဟန်းဖြစ်တော်မူပြီးနောက် မန္တလေးမြို့ ခင်မကန်တိုက်၊ ကောင်းမှုတော် အရှေ့ဘက် မန်ကျည်းစဉ်ရွာ၊ မြောက် ကန်တွင်း

ကျောင်း ဆရာတော် ဦးမေဓာ၊ ပန်းတနော် ရေလဲ ဆရာတော် ဦးပညာသာမိ တို့ထံတော်တွင် ပညာဆည်းပူးပါသည်။

မန္တလေးတွင် နေထိုင်စဉ်အတွင်း ကိုယ်တိုင်က အထက်စာပေကြီးများကို ဆည်းပူးသင်ယူသကဲ့သို့ လက်အောက်တပည့်များကိုလည်း နေ့ဝါ ညဝါ ပို့ချပေးသည်။

## ကျန်းမာရေး ချွတ်ယွင်းခြင်း

စတုတ္ထဆရာတော်မှာ ကျန်းမာရေးချို့တဲ့၏။ ရဟန်း ၅ ဝါအရခန့်၌ ချောင်းဆိုးသွေးပါရောဂါ ကျရောက်သဖြင့် မြန်မာသမားတော်ကြီးများနှင့် ၃ နှစ်မျှကုသယူရသည်။ မန္တလေးမြို့၌ ဆေးကုနေရင်း၌ပင် စာချအကျော်အမော်များထံက စာပေ သင်ယူဆည်းပူး၏။ အချိန်မဖြုန်းဘဲ ဖြစ်သည့်နည်းနှင့် အားထုတ်တော်မူသည်။

တစ်ခါကလည်း ကောင်းမှုတော် ကံတွင်းကျောင်းတွင် သိတင်းသုံး၍ ပညာဆည်းပူးနေစဉ် မျက်စိရောဂါရသဖြင့် ရွာသို့ခေတ္တ ပြန်၍ ဆေးကုသရသည်။

## ခြေတော်ရင်းသို့

တတိယထွင့်ခေါင်ဆရာတော်လေး၏ ပင့်ခေါ်ချက်ကြောင့် ဓမ္မိကချောင်သို့ ပြန်လည်ကြွရောက် သိတင်းသုံး နေထိုင်ရသည်။ ယင်းသို့နေထိုင်ရာတွင် ဆွေမျိုးဉာတိ ဒကာ ဒကာမများကိုလည်း မငဲ့၊ လာဘ်လာဘကိုလည်း မမျှော်ကိုးပဲ ရသမျှနှင့် တင်းတိမ်ရောင့်ရဲကာ ဆရာတော်လေး ခြေရင်း၌သာ နေထိုင်၏။

စစ်ကိုင်းမြို့ စကုမော်ကျောင်းကြီးကို ပြင်ဆင်ပြီးသောအခါ ကျောင်းဒကာများက အလှူခံပါရန် ပင့်ခေါ်သော်လည်း ငြင်းပယ်သည်။ ငယ်ဆရာဖြစ်သော ပန်းတနော် ရေလဲဆရာတော် ဦးပညာသာမိ ပျံလွန်တော်မူ၍ သွားရောက် သင်္ဂြိုဟ်သောအခါလည်း ကျောင်းဒကာ ဒကာမများက ကျောင်းထိုင်ရန် လျှောက်သော်လည်း ပယ်မြစ်၏။ အရှင်ဘုရား အေးအေးဆေးဆေး နေနိုင်ပါသည်။ အရှင်ဘုရားအတွက် ကျောင်းရန်ပုံငွေ လယ် ရှိပါသည်ဟု ဆိုကာ ကျောင်းအပ်ကြ၏။ အရှင်သုဝဏ္ဏကား ဆရာတော်ကလေး၏ ခြေရင်းသို့သာ ပြန်ကြွတော်မူသည်။

မန္တလေးမြို့ ဆိုင်းတန်းရပ်မှ ဦးလူကလေး – ဒေါ်မြစ် တို့ကလည်း မင်းကွန်းတောင်ရိုးမှာ ချောင်နေရာ ရှိပါသည်။ သီတင်းသုံးမည် ဆိုပါက ချက်ချင်း ကျောင်းဆောက်၍ လှူပါမည်။ အခြားပုဂ္ဂိုလ် ၃ – ၄ ဦးကလည်း တိုက်တာ ရေကန်များ ဆောက်တည်လှူဒါန်းပါမည် ဟု လျှောက်ထားကြသော်လည်း အရှင်သုဝဏ္ဏသည် ဆရာတော်ကြီး ထံပါးသို့သာ ခိုဝင်သီတင်းသုံး နေထိုင်တော်မူ၏။

## မှန်ရာသာ ဆိုမည်

တတိယဆရာတော် ၁၂၉၉ – ခု ဝါဆိုလတွင် ပျံလွန်တော်မူပြီးနောက် အန္တိမဈာပနသဘင် ဆင်ယင်ပြီးသော် ဓမ္မိကချောင်ကို အုပ်ချုပ်ရန် ပန်ကြား တာဝန်ပေးကြသဖြင့် ထိုနှစ်သီတင်းကျွတ် လကွယ်နေ့မှ စတင်ကာ လက်ခံ အုပ်ချုပ်၏။

စတုတ္ထဆရာတော် အရှင်သုဝဏ္ဏသည် ဒကာ ဒကာမများဖြစ်စေ၊

ရဟန်းတပည့် သမဂ္ဂသီတင်းသုံးဖော်ပင် ဖြစ်စေ ဟုတ်မှန်သည့်အရာ၌ လိုက်နာသည်ဖြစ်စေ မလိုက်နာသည်ဖြစ်စေ ဟုတ်မှန်သည့်အတိုင်းပင် မျက်မှောက်၌ပင် ပြောဆို ဆုံးမတော်မူသည်။

ဟုတ်မှန်သော စကားကို နားခါးကြသော်လည်း ပညာရှိသူတော်ကောင်းများက နှစ်သက် လက်ခံကြ၏။

ဆရာတော်သည် ကိုယ်ကျင့်တရားနှင့် စပ်ဆိုင်၍ ပြောကြားရာတွင် မိမိကိုယ်မိမိလည်း အားရစရာ ဘာမျှမရှိကြောင်း ပြောလေ့ရှိ၏။ ဆရာတော်၏ ဖြောင့်မတ်သော ဂုဏ်ကြောင့် ဆရာတော်သံဃာတော်များက လေးစား ကြည်ညိုကြသည်။

## ပိဋကတ်မျက်စိ

စတုတ္ထဆရာတော်သည် မန္တလေးမြို့ ခင်မကန်တိုက် အုတ်လှေကားကျောင်းတွင် နေထိုင်ကာ ပညာဆည်းပူးခဲ့၏။ လူပရိသတ် ရဟန်းပရိသတ်များကို ခင်မကန်ဆရာတော်ကြီး ဆုံးမပုံကို အမိန့်ရှိတတ်သည်။

ခင်မကန်ဆရာတော်ကြီးရှေ့တော်သို့ ဒကာ ဒကာမများ လာရောက်ပါက 'ဓမ္မစကြာရသလား၊ အနတ္တလက္ခဏာသုတ်ရရဲ့လား၊ ဒုစရိုက်ဆယ်ပါး သိရဲ့လား၊ သုစရိုက်ဆယ်ပါးသိရဲ့လား၊ ပုညကြိယာဝတ္ထုဆယ်ပါး သိရဲ့လား'ဟု မေးတော်မူ၏။

သိပါသည်ဆိုလျှင် ပြန်ခိုင်းတတ်၏။ ရပါက သာဓုအနုမောဒနာပြုသည်။ မရပါက 'မရဘဲနှင့် လိမ်ဝံ့သည်၊ ညာဝံ့သည်'ဟု ပြောတတ်သည်။

မရပါဘုရား၊ မသိပါဘုရားဟု လျှောက်ထားလျှင် 'ငါ့ရှင်တို့ လူဖြစ် ရှုံးကြပြီ။ ငါ့ရှင်တို့ လူဖြစ်ကျိုး ရှုံးကြပေသကိုး'ဟု အမိန့်ရှိတတ်၏။

ရဟန်းတော်များ ခင်မကန်ဆရာတော်ကြီးရှေ့သို့ ရောက်လာပါက ဝိနည်းနှင့်ပတ်သက်၍ ဒွေးမာတိကာ ရလားဟု မေးပြီး ရသည်ဆိုက ပြန်ခိုင်းသည်။ မရပါဘုရားဆိုပါက 'ငါ့ရှင်တို့အရပ် သာသနာကွယ်ပြီ'ဟု မိန့်ဆိုသည်။ သဒ္ဒါကြီး ရသလားမေးပြီး၊ ရပါသည်ဘုရား လျှောက်လျှင် အပြန်ခိုင်းတတ်၍ ရလျှင် သက်န်း စသဖြင့် ချီးမြှောက်ကာ မရလျှင် အပြစ်တင်၏။

ရသလားမေးစဉ် မရပါ တန်းလျှောက်ပါက 'ငါ့ရှင်တို့ ပိဋကတ် သုံးပုံ မျက်စိကွယ်ပြီကိုး'ဟု အမိန့်ရှိတတ်သည်။

## အပွေးမြင် အပင်သိ

အခြားရပ်ရွာသို့ သွားရောက်သည့်အခါ ဆရာသမား၏ ဂုဏ်သိက္ခာကို စောင့်သိ ရှိသေပါက မိမိဂုဏ်သိက္ခာ အလိုလိုရှိကြောင်း၊ တပည့်ကို မြင်ရုံဖြင့် ဆရာ့အကြောင်းကို သိနိုင်သည်ဟု အမိန့်ရှိတော်မူသည်။

ဆရာ့အကြောင်းမသိသူရှေ့တွင် မိမိ၏အပြုအမူ ဟန်မကျရုံဖြင့် ဆရာကိုပင် အထင်သေး ခံရနိုင်ကြောင်း၊ ဆရာ့အကြောင်းသိပြီးသူရှေ့တွင် မိမိ အနေအထိုင် ကောင်းပါက ဆရာကောင်းတပည့် ပီသသည်ဟု အချီးမွမ်း ခံရမည်။ နေရာမကျလျှင်လည်း မိမိမှာ ပိုမို အထင်သေး ခံရတတ်သည်။

သတိရှိစွာ ဝိနည်းသိက္ခာပုဒ်တော်နှင့်အညီ ကျင့်ကြံ ပြောဆို နေထိုင်ကြပါဟု အစဉ်အမြဲ ဆုံးမတော်မူ၏။

ရောက်လေရာမှာ ထွင့်ခေါင်ဆရာတော် တပည့်ပါဟု ပြောသော်လည်း ထွင့်ခေါင်အမွေး တစ်ရွေးမှမပါ ထွင့်ခေါင်စော် မနံပါက အထင်သေးကြမည်သာဖြစ်ကြောင်း အမိန့်ရှိ၏။

## ညောင်လွန့်မွေး မပါ

စစ်အတွင်းက စစ်ပြေးများနှင့်အတူ ဦးလက္ခဏ အမည်ရှိ ဦးပဉ္စင်းတစ်ပါး ဓမ္မိကချောင်သို့ ခိုလှုံရောက်ရှိလာပြီး 'တပည့်တော်က ညောင်လွန့်ကပါဘုရား၊ ညောင်လွန့်ဆရာတော်ကြီး တပည့်ပါဘုရား'ဟု လျှောက်ထား၏။

ညောင်လွန့်ဆရာတော်ကြီးကား ဝိနည်းသိက္ခာပုဒ်ကို အလွန် လေးစား၏။ ရောက်ရှိလာသော ရဟန်းတော်များကို နိဿဂ္ဂိယ ပစ္စည်း မရှိစေရ၊ သင်္ကန်းပရိက္ခရာမှစ၍ စိစစ်ပြီးမှ လက်ခံတော်မူသည်။

ယခုကြွရောက်လာသော ဦးလက္ခဏ၏ အမူအရာကို ဆရာတော်ကြီးက သဘောကျပုံ မပေါ်ပေ။ 'ကိုယ်တော်ကသာ ညောင်လွန့်တပည့်လို့ပြောတယ်၊ ညောင်လွန့်အမွေး တစ်ရွေးသားမျှ မပါပါပဲကလား' ဟု အမိန့်ရှိတော်မူသည်။

## ညီမျှသော ကရုဏာ

ဒုတိယကမ္ဘာစစ်ကြီး ဖြစ်လာသောအခါ စစ်ဘေးစစ်ဒဏ် လွတ်ရာလွတ်ကြောင်းအဖြစ် ဓမ္မိကချောင်သို့ ပုန်းခိုရောက်လာကြသူ

များစွာရှိ၏။ ကျောင်းသို့ ရောက်ရှိလာသူတိုင်းကို သူစိမ်း သူကျက် မရွေး ရပ်ဝေးရပ်နီးမရွေးမခွဲ မိမိကို အားကိုး၍ လာကြပေသည်ဟု ဆိုကာ သနားကရုဏာကို ညီမျှစွာ ထားတော်မူ၏။

## ဂျပန်စစ်တပ်

ချောင်အတွင်းသို့ ဂျပန်စစ်တပ်ရောက်လာကာ တပ်စွဲဆိုင်းဘုတ် ချိတ်လေ၏။

ဘယ်မှမရွှေ့ဟု သံန္နိဋ္ဌာန်ချထားသူများပင် ကျောင်းတိုက် အတွင်းသို့ ဖက်ဆစ်စစ်သားများ ရောက်လာသောအခါ စွန့်ခွါသွားကြသည်။ ဆရာတော်ကိုလည်း တချို့က တစ်ပါတည်း လိုက်ခဲ့ရန် ပင့်ခေါ်ကြပါသည်။

အချို့ဒကာများကား မထူးပြီဟု သဘောထား၍ မရွှေ့မပြောင်း နေကြသည်။ ဆရာတော်လည်း ယခုချောင်တွင်းသို့ လာရောက်သူများမှာ မိမိကို အားကိုးပြု၍ နေထိုင်ကြသူများ ဖြစ်သည်။ ထိုမှီခိုသူတွေ ရှိနေသရွေ့ ဓမ္မိကချောင်က ဘယ်မှမရွှေ့ဟုဆိုကာ ဂျပန်စစ်တပ် နှင့်ပင် နေတော်မူ၏။

## စစ်သားများ ရိုင်းပြ စော်ကားခြင်း

ဆရာတော်၏ချောင်တွင် ဂျပန်တပ်များ နေထိုင်ကြစဉ် စားနပ်ရိက္ခာတပ်မှ စစ်သားများသည် ချောင်အတွင်း၌ နွားများကိုသတ်ပြီး နွားသားများကိုလည်း ဘုန်းတော်ကြီးကျောင်းတိုက် အတွင်းမှာပင် အမြင်မတော် ချိတ်ဆွဲထားကြ၏။

နွားများသတ်ခြင်းကို ဆရာတော်၏စိတ်တွင် လွန်စွာ မချမ်းမသာ ဖြစ်တော်မူ၏။ မေတ္တာကရုဏာဖြင့် နှလုံးသွင်းနေသော်လည်း စိတ်ဆင်းရဲသဖြင့် ဂျပန်ဖက်ဆစ် စစ်သားများကို ဘာပဲဖြစ်ဖြစ် ပြောဆို ဆုံးမမည်ဟု စိတ်တွင် ကြံဆနေစဉ် နံနက်ပိုင်း၌ ဂျပန်စစ်တပ်လည်း ဆုတ်ခွါ ထွက်ပြေးသွားတော့၏။

## အသီးအရွက်သာ ဘုဥ်းပေးခြင်း

ဆရာတော် မြို့ထဲသို့ ကြွရောက်တော်မူခိုက် သားကောင်သေများကို အတုံးအရုံး သယ်ယူသွားသည်ကို တွေ့မြင်ရရာ စိတ်နှလုံးမသာယာသဖြင့်တစ်ကြောင်း၊ သတ္တဝါ (သားကောင်များ) အသတ်ခံရခါနီး၌ ကြောက်ရွံ့ထိတ်လန့်ကာ သေကြေကြရသည်ကို ပညာမျက်စိဖြင့် မြင်တော်မူ၍တစ်ကြောင်း ထိုအချိန်မှစ၍ အသားစားခြင်းကို စွန့်လွှတ်ပြီး အသီးအရွက်တို့ကိုသာ ဘုဥ်းပေးတော်မူပါသည်။

အသီးအရွက်ကို ဘုဥ်းပေးရာတွင်လည်း ကပ္ပိယ ကာရကတို့က ကောင်းရာကောင်းကြောင်း စီမံချက်ပြုတ်ခြင်း မပြုစေဘဲ ဘူးသီးပြုတ်၊ ဟင်းသီးဟင်းရွက်ပြုတ်၊ ခရမ်းချဉ်သီးငန်ငန်ချက်မျှလောက်ဖြင့်သာ အမြဲ ဘုဥ်းပေးတော်မူသည်။

တစ်ခါသော် အေးမြို့ကြီးဆရာတော်နှင့် လေးကျွန်းသာယာဆရာတော်တို့ ဓမ္မိကချောင်သို့ ကြွရောက်လာခိုက် ဆရာတော်က ဟင်းသီးဟင်းရွက်ပြုတ်၊ အရွက်စိမ်း၊ အငန်ရည် တစ်ခွက်နှင့် ဟင်းချို

ဖြင့်သာ ဆွမ်းဘုဉ်းပေးနေတော်မူခိုက်နှင့် ကြုံ၏။

'ဆရာတော့်ဆွမ်းပွဲမှာ သာယာစရာ ဘာမျှ မပါပါလား'ဟု လျှောက်ထားရာ 'ကိုယ်ကြိုက်တာကိုယ်တော့ သာယာကြတာချည့် ပါပဲဘုရား'ဟု အမိန့်ရှိတော်မူ၏။

## ဝိနည်းနှင့်အညီ

စတုတ္ထဆရာတော်ကြီးသည် ဝိနည်းသိက္ခာပုဒ်ကို လွန်စွာ လေးစား၏။ ကိုယ်တိုင် ဆက်ဆံသုံးစွဲသော အရာများကို အထူး စိစစ်တော်မူ၏။

တစ်ခါသော် ကနုတ်များ ဆေးနေကြရာ ဆရာတော်က 'ငါ့ကနုတ်တွေက အပ်အပ်စပ်စပ် သန့်သန့်ရှင်းရှင်းတွေပါ၊ ကောင်းကောင်းလုပ်ကြပါ'ဟု အမိန့်ရှိ၏။ တပည့်များက ကနုတ်မှာ မအပ်စပ်တာ ရှိပါသလားဘုရားဟု မေးလျှောက်ရာ 'ဝါးကလည်း သန့်ရှင်းမှ၊ ဓားကလည်း သန့်ရှင်းမှ'ဟု ပြောပြီး ကနုတ် မသန့် ရှင်းပုံကို ရှင်းပြတော်မူသည်။

အကပ္ပိယ အနာမာသ ဝတ္ထုများကို မည်သည့်အခါမျှ လက်မခံဘဲ တပည့်များကိုလည်း ကိုင်တွယ်ခွင့် မပြုပါ။

စတုတ္ထဆရာတော်ကြီးသည် ပျံလွန်တော်မူသည်အထိ ငွေကြေး ပိုက်ဆံများကို အနီးကပ် မမြင်ဘူးပေ။ အပ်သောနည်းဖြင့်လှူသော ပစ္စည်းများကိုသာ ခပ်လှမ်းလှမ်းမှ မြင်ဘူးသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

စတုတ္ထထွင့်ခေါင် ဆရာတော်ကြီး အရှင်သုဝဏ္ဏသည် ၁၃၃၀ ပြည့်နှစ် တပေါင်းလပြည့်ကျော် ၆ ရက်၊ စနေနေ့ နံနက် ၅–နာရီ မိနစ်၂၀–အချိန်တွင် ဘဝနတ်ထံ စံလွန်တော်မူ၏။

  

# အပိုင်း (၃)

## ဓမ္မိကချောင်

ဓမ္မိကချောင်ကို ပထမထွင့်ခေါင်ဆရာတော်ကြီးက အမရပူရ ခေတ် သက္ကရာဇ် ၁၂၀၄ ခုတွင် သိတင်းသုံး တည်ထောင်တော်မူ ခဲ့ပါသည်။

### တည်ရာဌာန

ဓမ္မိကချောင်သည် စစ်ကိုင်းမြို့နယ်၌ တည်ရှိသည်။ စစ်ကိုင်း မြို့၏မြောက်ဘက် ၆ မိုင်ကွာ၊ ထန်းတောရွာ၏ အနောက်ဘက်တွင် တည်ရှိသည်။ မင်းဝံတောင်တန်းကြီးတွင်ပါဝင်သည့် စစ်ကိုင်းတောင်ရိုး အလယ်ဗဟိုရှိ တောင်တန်းကြီးနှစ်ခုအကြား၌ တည်ဆောက်ထား၏။

ချောင်အမည်များ

ခမ္မိကချောင်ကို အမည် (၄) မျိုးဖြင့် ခေါ်ဆိုကြသည်။

(က) ဆင်မချောင

အမရပူရခေတ်၊ ဘိုးတော်ဘုရားလက်ထက်က တောင်စွယ် တောင်ကြား၌ ဆင်မယဉ်သာများကို လွတ်လပ်စွာ လွတ်ကျောင်း နေထိုင်စေသောအရပ် ဖြစ်၍ 'ဆင်မချောင်' ဟု အမည်တွင်သည်။ စစ်ကိုင်း မြို့သူမြို့သားများက ဆင်မချောင်ဟု အခေါ်များ၏။

(ခ) ထွင့်ခေါင်ချောင်

ထွင့်ခေါင်ဆရာတော်ကြီး တည်ထောင်ခဲ့သည့်ချောင် ဖြစ်သော ကြောင့် ထွင့်ခေါင်ချောင်ဟု အသိအမှတ် များကြသည်။

(ဂ) ခမ္မိကချောင်

ပဋ္ဌမသင်္ဂါယနာတင် ဘဝရှင်မင်းတုန်းမင်းကြီးက 'ခမ္မိကချောင်' ဟု ကျောက်စာကမ္ပည်းထိုး၍ ကိုးကွယ်ခြင်းကြောင့် ခမ္မိကချောင်ဟု တွင်သည်။

(ဃ) ချောင်ကြီး

ချောင်မှာ အလျား ၂ မိုင်ကျော်ပြီး အနံကလည်း တောင်နှစ်လုံးတို့ ရေလျှောကျဆင်းရာအကြား ၂ ဖာလုံခန့်ရှိ၍ ကျယ်ဝန်းပါသည်။ ချောင်အတွင်း၌လည်း အဆောက်အအုံများ ကြီးကျယ် များပြားသဖြင့် အနီးအနားက ရွာစဉ်ရွာတန်းတို့က ချောင်ကြီးဟု ခေါ်ဝေါ်ကြသည်။

## နယ်နိမိတ်

ဓမ္မိကချောင်ကြီး၏ နယ်နိမိတ်မှာ တောင်ဘက်တွင် မင်္ဂလာစေတီတောင်တော်၊ အရှေ့ဘက်တွင် မင်းကြီးဘုရားတည်ရှိသော မင်းကြီးတောင်တန်း၊ မြောက်ဘက်တွင် ဖက်ဝန်းချိုင့်နှင့် မြစ်ကြားလှိုဏ်၊ အနောက်ဘက်၌ လွမ်းစေတီ တောင်တန်းကြီးတို့အကြား ဖြစ်ပါသည်။

## တည်နေပုံ

တောင်တန်းကြီးများ ဝန်းရံနေသော အလျား ၂ မိုင်ခန့်အတွင်းတွင် လက်ဝဲ လက်ယာဘက်တို့၌ ကျောင်းများ ဆင့်ကာဆင့်ကာ တည်နေပါသည်။

ချောင်အတွင်း၌ ရှေးဟောင်းဂူ၊ ကျောင်း၊ တန်ဆောင်း၊ ဇရပ်များက ကျောင်းတိုက်ကြီး၏ သက်တမ်း ရှည်မြင့်ခဲ့ခြင်းကို ပြသနေပါသည်။

တရုတ်စကားပင်၊ မန်ကျည်းပင်၊ သစ်တော်ပင်၊ တောင်ခရေပင်ကြီးများနှင့် တော်အနံ့၊ တောင်လှိုဏ်တကြောတွင် အုပ်ဆိုင်းကာ ကျေးငှက်သာရကာတို့ဖြင့် အေးချမ်းသာယာစွာ တည်ရှိနေပါသည်။

## လှိုဏ်များ

၂ မိုင်ခန့်ရှည်သည့်ချောင်ကြီးတွင် လှိုဏ်သေး ၁၀ လှိုဏ်၊ ရိုး ၁၀ ရိုး ရှိပါသည်။

(၁) မြစ်ကြားလှိုဏ်

(၆) မင်းကြီးလှိုဏ်

(၂) ပဲလွန်းမွေလှို
(၃) လမ်းလှို
(၄) ဥက္ကံလှို
(၅) ပိတောက်ပင်လှို
(၇) မင်းတုန်းလှို
(၈) ဒုဋ္ဌာလှို
(၉) သုဝဏ္ဏလှို
(၁၀) လမ်းမကြီးလှို

ကုန်းများ

(၁) ကျောင်းကြီးကုန်း
(၂) ကျမ်းပြုကုန်း
(၃) သစ်တော်ပင်ကုန်း
(၄) ပိတောက်ပင်ကုန်း
(၅) စကြံကုန်း
(၆) မှန်ကျောင်းကုန်း
(၇) နန်းကျောင်းကုန်း

ကျောင်းဆောင်များ

ခမ္မိကချောင်ကြီးတွင် ကျောင်းကြီး (၄) ကျောင်းနှင့် ကျောင်းငယ်ကလေး (၃၀၀) ကျော် ရှိပါသည်။

ထင်ရှားသော ကျောင်းကြီး (၄) ကျောင်းမှာ -

(၁) ဆရာဝန်ကြီးကျောင်း
(၂) ပိတ်ကျောင်း
(၃) နန်းကျောင်း
(၄) မှန်ကျောင်း

စကြာများ

ဓမ္မိကချောင်မှာ·သီတင်းသုံးနေထိုင်ကြသော သံဃာတော်များကို ဣရိယာပုထ် (၄) ပါးနှင့်ညီမျှစွာ သီတင်းသုံး နေထိုင်တော်မူနိုင်ကြစေရန်အတွက် စင်္ကြံကြီးများကို ဆောက်လုပ်လှူဒါန်းထားပါသည်။ ၎င်းတို့မှာ -

(၁) မိန်းမစိုးစင်္ကြံ

(၂) မှန်ကျောင်းကုန်းစင်္ကြံ

(၃) ပိတောက်ပင်ကျောင်းစင်္ကြံ

(၄) အိမ်ရှေ့မင်းစင်္ကြံ

တို့ဖြစ်ပါသည်။

မိန်းမစိုးစင်္ကြံနှင့် ပိတောက်ပင်ကျောင်းစင်္ကြံတို့သည် တောမီးသင့်လောင်၍ မှန်ကျောင်းကုန်းစင်္ကြံကြီးမှာ ဂျပန်စစ်တပ်များက ဖျက်ဆီးသွားခဲ့ပါသည်။

ယခုလက်ရှိ အိမ်ရှေ့မင်းစင်္ကြံကြီးမှာလည်း ဆွေးမြည့်ပြိုလဲနေပြီး အစအနများမှာ ဟိုတခြား၊ သည်တခြား ပျောက်ကွယ်ကာ လက်ရုံး၊ ခါးပန်း၊ ပျဉ်ချပ်များသာ ကျန်ရှိပါတော့သည်။

ဇရပ်များ

ရပ်စုံဇရပ်၊ နန်းကျောင်းအမကြီးဇရပ်နှင့် အုတ်ဇရပ်ဟု ပင်မဇရပ်ကြီး (၃) ဆောင်နှင့် ဇရပ်ငယ်များစွာ ရှိပါသည်။

ယခုအခါတွင် နန်းကျောင်းအမကြီး၏ဇရပ်ကို ဂျပန်စစ်တပ်များဖျက်ဆီးထား၍ ပျက်စီးနေပြီး၊ အုတ်ဇရပ်ကြီးမှာ လူမသမာများက

အမိုးသွပ်များကို ဖြုတ်ယူသွားကြပြီ ဖြစ်သဖြင့် အခြင်နှင့်ကျဲကျဲ ရှုမြင်မကောင်း တွေ့နိုင်ပါသည်။

ရုပ်စုံဇရပ်ကြီး၏ဒကာမှာ မန္တလေးမြို့ ဂုဏ်တန်ဝင်းက ကုန်သည်ကြီး ဦးသက် ဇနီးမောင်နှံဖြစ်သည်။ ဇရပ်ကြီးက ကြီးလည်းကြီး၊ ပန်းပုလက်ရာများကလည်း အလွန်အနုပညာမြောက်သဖြင့် ဤဇရပ်ကြီးကို မင်းနိုးရာဇာတို့ ကုသိုလ်ကောင်းမှုဟုပင် မှတ်ထင်ကြ၏။

ထွန့်ခေါင်ဆရာတော်ကြီးရှိစဉ်က ရုပ်စုံဇရပ်ကြီးပေါ်တွင် နေ့စဉ်နေ့တိုင်း သံဃာတော်များနှင့်အတူ ပရိတ်ရွတ်၊ မေတ္တာပို့၍ ဘာဝနာကမ္မဋ္ဌာန်း စီးဖြန်းပါသည်။

ရုပ်စုံဇရပ်ကြီးကို မူလက သစ်သားမိုးပြီး နောက် သွပ်ထပ်မံမိုးသည်။ မြန်မာသက္ကရာဇ် ၁၃၀၈-၉ ခုနှစ်လောက်အထိ ပြည့်စုံနိုင်ခဲ့ပါသည်။

နောက်ပိုင်း ခေတ်ကာလ မကောင်းသည့်အခါ ရုပ်လုံးများကို ဖြုတ်နိုးသူကနိုး၊ အမိုးသွပ်များကို ခွာယူသူက ခွာနှင့် အခြေပျက်ကာ ၁၃၄၀ ခုနှစ်ခန့်မှာ ယိုယွင်း ပြိုပျက်လာပါသည်။ မိုးကြီး၍ အထက်ချောင်းက ရေလျှံလျှင် ဇရပ်ခြေကို တိုက်စားပြီး ယိုင်နဲ့ကာ ပျက်ယွင်းနေပါတော့သည်။

## ရေကန်များ

ဓမ္မိကချောင်တွင် ရေကန်ကြီး ၆ လုံးရှိပြီး ရေကန်ငယ် အများအပြားရှိသည်။ ထို ရေကန်များအနက် အချို့မှာ လုံးဝပျက်စီး၍

အချို့ကန်များမှာ အရာမျှသာ ကျန်ပါတော့သည်။

ထင်ရှားသော ရေကန်များမှာ -

(၁) ဆရာတော်ကြီး စောင်းတန်းဦးရေကန်

(၂) ဆရာတော်ကြီးရေကန်

(၃) လင်ပန်းကန်

(၄) အုတ်ဇရပ်ရေကန်

(၅) မှန်ကျောင်းရေကန်

(၆) နန်းကျောင်းကုန်းရေကန်

တို့ဖြစ်သည်။

ဆရာတော်ကြီးရေကန်ကို ၁၃၂၄ ခုနှစ်တွင် ပြုပြင်ကြပြီး ကန် ၅ ကန် အသုံးပြုနိုင်ပါသေးသည်။

## သိမ်များ

ခမ္မိကချောင်၌ သိမ် (၄) လုံးရှိပါသည်။

မင်းတရားကြီးသိမ်တော်နှင့် မြကလေးသိမ်တို့မှာ နယ်နိမိတ်နှင့် အုတ်ထရံထောင်သာ ကျန်ရှိတော့ပြီး မင်းကြီးတောင်ထိပ်တွင်ရှိသော ပဲလွန်းမွေသိမ်သည် မီးသင့်လောင်၍ နယ်နိမိတ်သာ ရှိတော့၏။

မဟာဝိဇယဘူမိ အမည်ရှိသော ဦးဖိုးညွန့်သိမ်တစ်လုံးသာလျှင် ကောင်းစွာကျန်ရှိပြီး ရဟန်းတော်များ ကံကြီးကံငယ် ပြုနိုင်ပါသည်။

ဘုရားများ

ခမ္မိကချောင်သည် နေရာကျယ်ဝန်းပြီး လှိုဏ်မြောင်တောင်တန်းများတွင် ဘုရားစေတီများကို သပ္ပာယ်စွာ တည်ရှိထားပါသည်။

(၁) အနောက်နန်းမတော် မိဖုရားဘုရား
(၂) မကွေးမင်းကြီး ဦးကြာဥဘုရား
(၃) ဆရာတော်ကြီး ကျမ်းပြုသည့်နေရာ၌
ဆင်ထိန်းကြီးတည်သော ပုံတော်ဘုရား
(၄) ဗိုလ်ဘုန်းကြီး၏ ပုံတော်ဘုရား။
လင်ပန်းမိဖုရားဘုရား
(၅) စကြံဦးပုံတော်ဘုရား
(၆) ရမ်းဗြဲမင်းကြီးဘုရား
(၇) သုဝဏ္ဏရွှေသူဌေးဘုရား
(၈) မြကလေး သိမ်ဦးပုံတော်ဘုရား
(၉) ဥတ္တရာမာရ်အောင် စေတီ
(၁၀) ပထမဆရာတော် အရိုးအိုးစေတီတော်
(၁၁) ဒုတိယဆရာတော် အရိုးအိုးစေတီတော်

စသည်ဖြင့် စေတီကြီးများ တည်ရှိထားပြီး စေတီငယ်များလည်း အနှံ့အပြား တည်ထားပါသည်။

ပုံတော်ဘုရားဟုတွင်ခြင်းမှာ ကောင်းမှုတော်ဘုရားကြီး၏ ပုံတော်အတိုင်း တည်ထားခြင်းကြောင့် ဖြစ်ပါသည်။

# ရုပ်ပွားတော်နှင့် ဂန္ဓကုဋိတိုက်များ

## (၁) သီလရှင်မယ်ကင်းကောင်းမှု

အာဠဝီရနှင့် ဥဒကတို့အတွက် ရင်သပ်ရှုမောဖြစ်ပြီး မဟာကရုဏာတော်ဖြစ်ဟန် ရုပ်တော်မူရုပ်ပွားတော်နှင့် ပြာသာဒ်ကျောင်းတော်ကို သီလရှင်မယ်ကင်းက လှူဒါန်း ပြုလုပ်ထားသည်။

ပြာသာဒ်တော်ကို ဂျပန်စစ်သားများက ဖျက်စီးသွားသောကြောင့် ယခုအခါတွင် ရုပ်ပွားတော်ကို မယ်နတ်ပေး၏ တန်ဆောင်းအတွင်း ရွှေ့ပြောင်းထားရှိရ၏။

## (၂) သီလရှင် မယ်နတ်ပေးကောင်းမှု

တင်ပလ္လင်ခွေ ဖူးမျှော်ကန်တော့ ခံတော်မူပုံ ရုပ်ပွားတော်နှင့် စုလစ် မွန်းချွန်းတပ်သော ဂန္ဓကုဋိကျောင်းတော်ကို သီလရှင် မယ်နတ်ပေးက တည်ဆောက်ထားပါသည်။

## (၃) ရန်အောင်မြင် ဝန်ထောက်မင်းကောင်းမှု

ရန်အောင်မြင်ဝန်ထောက်ကို ပထမထွင့်ခေါင်ဆရာတော်ကြီးက ရာဇဝတ်ဘေးမှ ကယ်မတော်မူခဲ့သည်။ ဝန်ထောက်မင်းကလည်း ဉာဏ်တော် ၅ တောင်ရှိသော ကျောက်ဆင်းတု တင်ပလ္လင်ခွေရုပ်တုတော်နှင့် ပြာသာဒ်ရှည် ဂန္ဓကုဋိတိုက်တော်ကို ကောင်းမှုပြုထားသည်။

ပြာသာဒ်ကြီးမှာ တောမီးသင့်လောင်သွားသဖြင့် ရုပ်ပွားတော်နှင့် အုတ်တိုင်အရံအကာများသာ ထီးတည်းကျန်ရှိနေပါတော့သည်။

(၄) စက်တော်ရာ

မင်္ဂလာစေတီ တောင်ခါးပန်းမြောက်ဘက်ဘေးတွင် အထက်စက်တော်ရာ၊ အောက်စက်တော်ရာ ပွားများနှင့် နာဠာဂိရိဆင်နှင့် အင်္ဂုလိမာလတို့ကို ကရုဏာထား၍ မိုက်မှားမှုကို တားမြစ်တော်မူဟန် ရုပ်ပွားတော်များ၊ ဘုံမြင့် ဘုံဆင့်တပ် ဂန္ဓကုဋိတော် ဆောက်လုပ်ထားပါသည်။

(၅) ဦးဖိုးညွန့်ကောင်းမှု

မဟာဝိဇယဘူမိ သိမ်တော်ကြီးအတွင်းတွင် တင်ပလ္လင်ခွေ ရုပ်ပွားတော် ၁ ဆူနှင့် ရုပ်တော်မူ ၂ ဆူကို ဦးဖိုးညွန့်က တည်ထားကောင်းမှု ပြုပါသည်။

ဂူများ

မင်းတုန်းမင်းသား၊ ကနောင်မင်းသားများသည် မင်းသားဘဝကပင် ထွင့်ခေါင်ဆရာတော်ကြီးကို ကိုးကွယ်ကြည်ညိုကြသည်။

မင်းတုန်းမင်းသား မင်းအဖြစ်သို့ရောက်သောအခါ ဆရာတော်ကြီး သးတင်းသုံးရာချောင်ကို နယ်ပယ်သတ်မှတ်ခြင်း၊ ပတ်ဝန်းကျင် နယ်နိမိတ်တို့ကို ဘေးမဲ့ပေးခြင်း၊ ဆရာတော်ကြီး အလိုအရ ဂူကျောင်း ဆောက်လုပ်ပေးခြင်းများ ပြုခဲ့ပါသည်။

ခမ္မိကချောင်တွင်ရှိသော ဂူများမှာ –

(၁) ပထမဆရာတော်ကြီး၏အုတ်ဂူ

(၂) ပိတ်ကျောင်းဂူ

(၃) မှန်ကျောင်းဂူ
(၄) နန်းကျောင်းကုန်းပေါ်က ခမ္မိကရာမဂူ
(၅) စက်တော်ရာဂူ တို့ဖြစ်ကြသည်။

မှန်ကျောင်းဂူသည် ဆရာတော်ကြီးထံသို့ ဘေးမဲ့ပြေးလွှား ရောက်ရှိလာကြသော ရာဇဝတ်သားများကို အလုပ်ပေးသောအားဖြင့် စေခိုင်း ဆောက်တည်ထားသည့် ဘေးမဲ့ဂူ ဖြစ်ပါသည်။

နန်းကျောင်းဂူမှာ တတိယ ဆရာတော်ကြီးလက်ထက်တွင် မန္တလေးမြို့ ပဲလှော်ချောင်မှ ပွဲစား ဦးတင်–ဒေါ်မျှင်တို့က ကုသိုလ်ပြု ထားခြင်းဖြစ်ပြီး ယခုတိုင် အသုံးပြုလျက် ရှိပါသည်။

စက်တော်ရာဂူနှင့် ပိတ်ကျောင်းဂူတို့မှာ ပြိုပျက်ပေါက်ကျလျှက် ရှိပြီ။ ဆရာတော်ကြီး၏ အုတ်ဂူမှာလည်း ခြုံကြီးများအောက်သို့ ရောက်ရှိနေပြီ ဖြစ်ပါသည်။

## ခေတ်ပြိုင်ချောင်များ

ပထမ ဆရာတော်ဘုရားကြီး လက်ထက်က ခမ္မိကချောင်နှင့် အဆက်အနွယ်ရှိရာ ချောင်များမှာ တောင်ရိုးကြီး၏ အရှေ့ဘက် မျက်နှာ၊ မြောက်ဘက် တစ်မိုင်ခန့်ရှိ ဗန်းမော်ဆရာတော် သီတင်းသုံးသည့် ဗန်းမော်ချောင်၊ မင်းအိုဆရာတော် သီတင်းသုံးသည့် မင်းအိုချောင်၊ သင်္ဂဇာဆရာတော်၏ သင်္ဂဇာချောင်၊ ဝဇီရာဆရာတော် သီတင်းသုံးသည့် ဝဇီရာချောင်များ ရှိသည်။

ခမ္မိကချောင်ထက် ရှေးကျသော ကျောက်အိုးချောင်၊ အုတ်ရှစ်ချောင်၊ ပန်းတောချောင်တို့လည်း တည်ရှိကြသည်။

ထွင့်ခေါင်ဆရာတော်ကြီး၏ ဥပဇ္ဈာယ်ဆရာ မန်ကျည်းတော ဆရာတော်ကြီး၏ မန်ကျည်းတောချောင် သည်လည်း တည်ရှိပါသည်။

## အဆက်အနွယ်ရှိသည့် ချောင်များ

ဓမ္မိကချောင်နှင့် ထွင့်ခေါင်ဆက်ချောင်များအဖြစ် ၁၂၇၂ ခု ရသာတန်း ဆန်လှူသင်း၏ စာရင်းများတွင် အောက်ပါအတိုင်း တွေ့ရပါသည်။

(၁) ဓမ္မာ သာရချောင်
(၂) ဓမ္မရက္ခိတချောင်
(၃) ရတနာဃရ(ထပ်ဆင့်)ချောင်
(၄) ဓမ္မသာမိ ချောင်
(၅) ဓမ္မသာမိရွှေဂူချောင်
(၆) စစ်ကိုင်းမင်္ဂင်(ထပ်ဆင့်)ချောင်
(၇) ဗောဓိချောင်
(၈) ဥတ္တရာဗောဓိ
(၉) ရှစ်မျက်နှာချောင်
(၁၀) နိဗ္ဗာန်ဆိပ်ဦးချောင်
(၁၁) ဇေယျမင်္ဂလာချောင်
(၁၂) မင်္ဂလာစေတီ(အထက်)ချောင်
(၁၃) မင်္ဂလာစေတီ(အောက်)ချောင်
(၁၄) မင်္ဂလာဘုံပျံချောင်

(၁၅) ပစ္စိမာဝံချောင်
(၁၆) သုသာန်ချောင်
(၁၇) မန်ကျည်း(မြောက်)ချောင်
(၁၈) မင်းဝံချောင်
(၁၉) မကူရာဝံသ ချောင်
(၂၀) ဓမ္မပါလချောင်
(၂၁) ဓမ္မိကကြီးချောင်
(၂၂) ဓမ္မိကဝံသအရှေ့ချောင်
(၂၃) ဓမ္မိကဝံသ အနောက်ချောင်
(၂၄) ကျားကူးချောင်
(၂၅) မော်လမြိုင်ချောင်
(၂၆) ရတနာထွန်းခေါင်တိုက်သစ်

မင်းကွန်းဘက်တွင်လည်း –

(၁) ရွှေမြင်တင်
(၂) ဦးပါတူကူ
(၃) ဦးပုကြီးတောင်
(၄) အုံးတဇင်တောကျောင်း များရှိကြသည်။

တောရများ (မြေပြင်)

(၁) ကောင်းမှုတော်တောရ
(၂) လက်လှုပ်တောရ

(၃) မြင်းမွေးတောရ
(၄) ပေါက်တောကန်တောရ
(၅) စာရေးတောရ
(၆) ကျောက်ပန်တောရ
(၇) ရွှေမြင်တင်တောရ
(၈) အုံးတဇင်တောရ များ၌ သီတင်းသုံးတော်မူခဲ့ပါသည်။

## 'ခမ္မိကာရာမ ဝိဇယဘူမိ' သိမ် ကျောက်စာ

**စိရံ တိဋ္ဌတု ဇိနသာသနံ** – ဇိနသာသနံ – ဘုရားသခင်၏ သာသနာသည်၊ စိရံ – ပွင့်လင်းစည်ကား၊ ရှည်လျားကြာမြင့်စွာ၊ တိဋ္ဌတု – တည်စေသား ...

သုံးလောကဓာတ်၊ အမင်းမင်း အနတ်နတ်၊ အမြတ်တကာတို့၏ အဓိပတိ၊ မုနိသေဋ္ဌ၊ အတုလဇကန် အမှန်စင်စစ် ဖြစ်တော်မူသော၊ သဗ္ဗညုတဘုရားသခင်၊ သာသနာတော် တောက်ပထွန်းလင်းရာ၊ ရတနာပုံရွှေမြို့တော်ကြီး၏ အနောက်ပြင်၊ ဂုဏ်တန်တန်းရပ်နေ၊ မောင်ဖိုးညွန့် ဇနီးမောင်နှံတို့သည်၊ သံသရာဝဋ်ဒုက္ခတို့၏ ကုန်ခန်းခြင်းကို အလိုရှိကြ၍၊ ရတနာထွဋ်ရှိခေါင် – ဤခမ္မိကချောင်မှာ၊ ရဟန်းသံဃာတော်မြတ်တို့ ချမ်းသာစွာ၊ ကံကြီးကံငယ် ရွက်ဆောင်ရန် ထာဝရကံကုသိုလ်၊ သိမ်သမုတ်လှူဒါန်းလိုသောကြောင့် ကိုယ်တော်စားရပ်ပွားဆင်းတုတော်မြတ်နှင့်တကွ ဘုရားအမှူးရှိသော သံဃာတော်အရှင်မြတ်တို့အား လှူဒါန်းရန် ခြူးပန်းခြူးနွယ် တုရင်မှန်ကင်း၊ စုလစ်မွန်ချွန်းတို့ဖြင့်၊ တင့်တယ်ကောင်းမွန်စွာ၊ တန်ဆာဆင် အပ်

သော၊ အုဋ္ဌအင်္ဂတေတို့ဖြင့် အပြေအပြစ် အခိုင်အခံ့ ဥပုသ်အိမ် သိမ်တန်ဆောင်းကို ကောင်းမွန်စွာ တည်ထား၊ ဆောက် လုပ်ပြီးလျှင် အရှေ့အနောက်၊ တောင်မြောက် စတုရန်း-၇တာစီ မြေရပ်ကို ဝိသုဂါမ၊ မြေစားအမိန့်တော်ခံယူ၍ ကြည်ဖြူလေးမြတ် ပင့်ဖိတ် အပ်သော -

ပျားငယ် ပျားကြီးတို့၏ နားဝဲခိုမှီ ပန်းဆီပန်းယက်ကိုယူရာ ဂန္ဓာမာဒနတောင်၊ ပတ္တမြားလှိုင်ဂူဝဒ္ဒပေါက်ရောက်သော မဉ္ဇူသက သစ်ပင်ကြီးပမာ အိမ်ရာထောင်သော လူ၏ဘောင်ကို ထောင်ဒဏ် အသွင်ညီ၊ ငွေ့မှတ်ထင်ကြသဖြင့် နိက္ခမပါရမီကို လိုလားကြသော အမျိုးကောင်းသား၊ အမျိုးကောင်းသမီးတို့မှစ၍ ကောင်းမှုကုသိုလ် ထိုထိုမြတ်ဓမ္မကို အလိုရှိကြကုန်သော တိုင်းပြည်နိုင်ငံသူ လူအပေါင်း တို့၏ ဦးခေါင်းပေါ်ထက်၊ လက်အုပ်မြှောက်ချီ၊ ခိုမှီဆည်းကပ်၊ မြတ်သောသူတော်ကောင်းတရားကို အားထုတ်ရှာယူရာ၊ ဘာဝနာ ဘိရတ ကမ္မဋ္ဌာနိကအရှင်ဟု ထင်ရှားကျော်စောသောစစ်ကိုင်းတောင်ရိုး၊ တောရအရညဝါသီ၊ မဟာထေရ် ထွင့်ခေါင်ဆရာတော်။ ဝိနည်းကံ အရား လိမ္မာစေ့စပ် အလေးပြုအပ်ကုန်ထသော ဆရာကျော် ဆရာမြတ် တို့သည် နှစ်သက်လေးမြတ် ချီးမွမ်းအပ်သော ရွတ်ဖတ် ဟောကြား၊ စကားပြောမှု အရပ်ရပ်တို့၌လည်း ဗျတ္တိပဋိဗလ ဝိသာဒရ ရှိရမည့် အရာတွင် ဘာဏနီပင်ဟူ၍ လူရှင်ရဟန်းတို့သည် ချီးမွမ်း ပြောပ အပ်သော သတ္တိဂုဏ်ရှင်ဟု ထင်ရှားကျော်ဇောသော ငှင်းတောင်ရိုး တောရ အရညဝါသီ၊ မဟာထေရ်၊ ဗန်းမော်ဆရာတော် အမှူးရှိသော သံဃာတော်ပေါင်း ရှစ်ကျိပ်ငါးပါး (၈၅ပါး) တို့သည် ဘုရားပညတ် ခွင့်ပြုတော်မူအပ်သော ဥ တ္တိဒုတိယ ကမ္မဝါစာဖြင့်၊ သမန္တာလေဍ္ဍု

ပါတေ ဟု အကျယ်အများ နုတ်စေလို၍ မိန့်ဆိုအပ်သော ငိုကာပါဠိနှင့် အညီ သိမ်နိမိတ်၏ပြင်ပ ၁၀ တောင်ကျော်ခန့်အရပ်မှစ၍ သိမ်တွင်း သိမ်ပ – အကြိမ်များစွာနုတ်ခြင်း၊ ဝိသုံဂါမခေတ်ကို လုံခြုံစွာ စောင့် ရှောက်ခြင်း။ တံ တံ နိမိတ္တဌာနံ အဂန္တာပိကိတ္တေတုံ ဝဋ္ဋတိ ဟု လာရှိသော ငိုကာနှင့်အညီ သိမ်နိမိတ်၏ရှိရာသို့ လှည့်သွား၍ သုံးကြိမ် မသွားမူ၍ နှစ်ကြိမ်အားဖြင့် (၅) ကြိမ် ကျောက်နိမိတ်ကြားခြင်း၊ ဤပုဗ္ဗကိစ္စပရိကံတို့ကို စိမံအားထုတ်ပြီး၍ တစ်ပါးတည်း (၃) ကြိမ် (၃) ပါးတွဲ (၇) ကြိမ်အားဖြင့် ဆယ်ကြိမ်တိုင်တိုင် ဘုရားမှန် ပါတ် ဥတ္တိဒုတိယကမ္မဝါစာ အာဏာတော်မြတ်ဖြင့် သေချာစွာ သမုတ်အပ်သော အရှေ့အနောက်တောင်မြောက် စတုရန်း ၂၁ (နှစ်ဆယ့်တစ်တောင်) စီ အတိုင်းအရှည်ပမာဏရှိသော ဤသိမ်မြတ် သည် သာသနာတော် ၂၄၁၉ ခု ကောဇာသက္ကရာဇ် ၁၂၃၇ ခု ဟေမန္တဥတု ရာသီအခါသမယ နတ်တော်လပြည့်ကျော် (၃) ရက် ၃၀ါနေ့ နှစ်ချက်တီးကျော် ၃ ဘွားအချိန်တွင် ပြီးစီးအောင်မြင်သည်။

မဏ္ဍိုင်ဗဟိုလေးရောင်စိုသား၊ မြင်းမိုရ်လက်ျာ၊ ပေါ်ထွန်းလာ သည်၊ ဒီပါသပြေ၊ သောင်းတိုက်မြေထက်၊ ကြက်သရေထွန်းပွင့် နေသို့တင့်လျက် ဘုန်းမြင့်သခင်၊ သောင်းခွင်လူ့ဘ၊ ဘူပါလသည်၊ စသည်ရိပ်လျှံ၊ မန်းရွှေဘုံကို၊ စိုးခြံအာဏာ၊ ရှိသောခါဝယ်၊ လိုရာကုန်စုံ၊ ပေါများပုံသည့်၊ ဂုဏ်တန်မည်ရှိ ရပ်သီရိဋ္ဌ သတိမြဲခိုင်၊ မယိုင်သဒ္ဓါ၊ ပညာတက်ပွား၊ ကြည်စိတ်ထားနှင့်၊ တရားစောင့်သုံး၊ သူတော်ထုံးဖြင့်၊ ကျင့်သုံးကြံစွန့်၊ မောင်ဖိုးညွန့်က၊ အစွန့်ရှည်စွာ၊ သံသရာစက်၊ ဝဲဂယက်မှ၊ လွတ်ထွက်စိမ့်ငှာ၊ ပဏ္ဏနာဆုကြီး၊ အမြိုက်သီးကို အားကြီးတောင့်တ၊ လျှုဒါနဖြင့်၊ ကိစ္စကုန်အောင်၊ တောင်းပင့်ဆောင်၍၊

ရွှေတောင်ဓာတ်၊ တိုင်းလုံးသိသား၊ ဝိနည်းအကျော် လွန်ထင်ပေါ်သည့်၊ ဗန်းမော်ဆရာ၊ ထေရ်မဟာနှင့်၊ ရတနာဂီရိ၊ ထွန်းပြောင်ညီသည်၊ ခမ္မိကချောင်၊ ဤတောင်ယံဝယ်၊ ခြိုးခြံတပ၊ သန္တောသဖြင့်၊ ခမ္မကြိုးကွက်၊ အားထုတ်လျက်သာ၊ မြတ်ရာရာကို၊ ရတနာထွဋ်ခေါင်၊ အာဒိဆောင်သား၊ သံဃာများတို့၊ ဘုရားပညတ်၊ မုက္ခပါဠ်ဖြင့် ကောင်းမြတ်သေချာ၊ ညီညွတ်စွာလျှင်၊ သဒ္ဒါမယုတ်၊ မိန့်ခွန်းထုတ်၍၊ သမုတ်သည့်တာ၊ မှန်စွာကုန်စင်၊ စီစဉ်ရေးသား၊ အများနောက်နောင်၊ သိစေအောင်ဟု၊ ငွေရောင်ကျောက်တွင်၊ ကဗျည်းတင်၍၊ လင်္ကာစကားပြေ၊ နှစ်ထွေတင့်ရွှန်း၊ ခိပ္ပာယ်ညွှန်းသည် မော်ကွန်းရွှေစာ နိဒါန်းတည်း။

(ခမ္မိကချောင် ရုပ်စုံဇရပ်ကြီး အနီးကပ်လျက် ယခု အသုံးပြုဆဲ သိမ် ကျောက်စာ ဖြစ်ပါသည်။)

## ကောင်းမှုတော်

### ကောင်းမှုတော် တောကျောင်း

တောရဆောက်တည်နေသော ပထမထွဋ်ခေါင်ဆရာတော်ကြီး မကျန်းမာသဖြင့် သစ်တစ်ပင်အောက်၌ မသွားနိုင်၊ မလာနိုင် ပြိုလဲနေခိုက် ထင်းခုတ်သွားသူ တောသူတောင်သားများက တွေ့ရှိသဖြင့် ပင့်ခေါ်ကာ ကောင်းမှုတော်ဘုရားကြီး၏မြောက်ဘက်၊ တောရမြောက်လောက်သော နေရာ၌ ကျောင်းငယ်ဆောက်ပြီး ကိုးကွယ်ခဲ့ရာမှ ကောင်းမှုတော်တောကျောင်း ပေါ်ပေါက်ခဲ့ပါသည်။

ထို တောကျောင်းတော်ကို ပထမဆရာတော်ကြီး ဓမ္မိကချောင်သို့ ပြောင်းရွှေ့သီတင်းသုံးသောအခါ ဒုတိယဆရာတော် အလောင်းအလျာ တူတော် အရှင်ဇိနဝံသ က စောင့်ရှောက်နေထိုင်တော်မူ၏။

ယခုအခါတွင် တောကျောင်းသည် ယိုယွင်းပျက်စီးလာပြီး အဆောက်အအုံများ မရှိတော့ပဲ စားပင်သီးပင်များ စိုက်ပျိုးထားသော မြေအဖြစ်သို့ ရောက်နေပါတော့သည်။ မြေစာရင်းဌာနမြေပုံများတွင် ကောင်းမှုတော် တောကျောင်းနေရာကို 'သာသနာ့မြေ' ဟု ဖော်ပြထား သည်။

ထွင့်ခေါင်ဆရာတော်ကြီး၏ တပည့်မ သီလရှင်များသည် ကောင်းမှုတော် အနောက်ဘက် ဝိနည်းခိုရ် (အပြင်တိုက်) တောင်ဘက် တွင် တောင်တိုက် , မြောက်တိုက်ဟု ခွဲပြီး သီလရှင်ဆရာကြီး ဂေါတမီ၊ ဆရာကြီး ခေမာရီတို့ စတည်ခဲ့ပြီး တပည့်များနှင့် စည်ကား သိုက်မြိုက် စွာ သီတင်းသုံးခဲ့ကြပါသည်။

စစ်ပြီးခေတ်တွင် သီလရှင်များ ပြတ်လပ်သွားကာ သီလရှင်တိုက် များက ဘုန်းကြီးကျောင်းဖြစ်သွားပါသည်။ ယခုအခါ တောင်တိုက် ရွှေရတနာနှင့်၊ မြောက်တိုက် သုဓမ္မာစံကျောင်းတို့ ဖြစ်လာပါသည်။

ကောင်းမှုတော် သီလရှင်တိုက်မှ ဆရာကြီး ဒေါ်ကုမ္မာရီသည် ဉာဏ်ပညာထက်မြက်သည်ဟု ထင်ရှားပါသည်။ စာသင်စာချ တော်သည်၊ လိုရင်းကို အမြန်ပေါက်ရောက်အောင် သင်ကြားပေးနိုင် သည်ဟု ဆိုသည်။

ဒေါ်ကုမ္မာရီ၏ တပည့် ဒေါ်ဝိစာရီ၊ ဒေါ်ဩဘာသီတို့ကို ဆွမ်းချက် အနောက်ဘက်ခြမ်း ဆရာတော်ဦးမုနိန္ဒက သီလရှင်တိုက်ဖွင့်ပေးပြီး သီတင်းသုံး သာသနာပြုခဲ့ကြပါသည်။ ဆရာမကြီး ဒေါ်မြခင်၏

အကူအညီကိုရယူပြီး ကျောင်းသူကျောင်းသားများပါလက်ခံ၍ လောကီလောကုတ္တရာ စာပေများကိုပါ သင်ကြားပို့ချပေးခဲ့ကြ၏။ ၁၃၂၇ ခုနှစ်တွင် ထိုကျောင်းကို ပညာရေးဌာနသို့ လွှဲပြောင်းပေးလိုက်သည်။

## ကောင်းမှုတော်ပူဇော်ပွဲ

ပထမထွင့်ခေါင်ဆရာတော်ကြီးသည် ကောင်းမှုတော်ဘုရားကြီးကို အထူးသဖြင့် အာရုံပြု ကြည်ညိုသည်။ ရောက်ရာဒေသဌာနမှ အာရုံပြုချိန်ကို သတ်မှတ်ကာ ဘုရားကြီးကို ဖူးမြင်လောက်ရာနေရာမှ ဖူးမျှော်လေ့ရှိပါသည်။

ခမ္မိကချောင်သို့ ပြောင်းရွှေ့သီတင်းသုံးတော်မူသည့်အခါတွင်လည်း ဘုရားကြီးကိုဖူးမြင်လောက်သောတောင်ထိပ်သို့ နေ့စဉ်တက်၍ ဖူးမျှော်ကန်တော့ပါသည်။ ဘ၀ရှင်မင်းတရားကြီးက ဆရာတော်ကြီး ဖူးမျှော်သောနေရာကို ၄ ပင်တိုင် ပြာသာဒ်ပေါက်သော မျှော်ကျောင်းဇရပ်တစ်ဆောင် ဆောက်လုပ်လှူဒါန်း၏။

ထွင့်ခေါင်ဆရာတော်ကြီးသည် နှစ်စဉ်နှစ်တိုင်း တန်ဆောင်မုန်းလဆန်း ၁၄ ရက်၊ လပြည့်နေ့နှင့် တပေါင်းလပြည့်နေ့များတွင် ကောင်းမှုတော်ဘုရားကြီးကို မီးပူဇော်ပါသည်။ နံနက်တွင် သံဃာ ၁၀၀ ကျော်တို့ကို စာရေးတံမဲနှင့်တကွ သံဃဒါနဆွမ်းကြီးလောင်းလှူပွဲ ပြုလုပ်သည်။

ယင်းသို့ ပူဇော်သည်ကို မင်းတုန်းမင်းကြီးကြားလျှင် စစ်ကိုင်းမြို့ဝန် ဦးရီးကို သွားရောက်ကူညီဆောင်ရွက်ရန် အမိန့်တော်ရှိသဖြင့်

ကောင်းမှုတော် ပူဇော်ပွဲမှာ လွန်စွာကြီးကျယ် လှပါသည်။

ဒုတိယဆရာတော်ကြီးသည်လည်း ယခင်နည်းတူ ပူဇော်ပွဲကို ပြုလုပ်ပါသည်။ ၎င်းအပြင် နတ်တော်လပြည့်နေ့၌ ဒုတိယဆရာတော်ကြီး၏ မယ်တော်ကြီး ဘုရားပူဇော်ပွဲကိုပါ ကျင်းပသေးသည်။ ဒုတိယဆရာတော်ကြီး၏လက်ထက်တွင် သီပေါမင်းနှင့် စစ်ကိုင်းမြို့ဝန်တို့၏ အကူအညီဖြင့် ကြီးကျယ်စွာ ကျင်းပပါသည်။

သီပေါအရှင် ပါတော်မူပြီးသောအခါ ဒကာဒကာမများ၊ တတိယဆရာတော်ကြီး၏ ရဟန်းအမ ဒေါ်ကြီး မိသားစုတို့က ပူဇော်ပွဲ ဆွမ်းကြီးလောင်းလှူပွဲ ကျင်းပနိုင်ခဲ့ပါသည်။

တတိယဆရာတော်ကြီးလက်ထက်တွင် ရဟန်းအမ ဒေါ်ကြီး ကွယ်လွန်သောအခါ သမီးဒေါ်မနှင့် ဒေါ်ဘူး၊ ဒေါ်ဟန်၊ ဦးအေးကြီး၊ ဒေါ်သီ၊ ဦးကို၊ ဒေါ်ဇင် စသော ဒကာဒကာမများ၏ ပါဝင်မှုဖြင့် ကောင်းမှုတော် ပူဇော်ပွဲကို နှစ်စဉ် မပျက် ဆက်လက်ကျင်းပကြပါသည်။ ၎င်းအပြင် သီတင်းကျွတ်လပြည့်နေ့တိုင်း ဒုတိယဆရာတော်ကြီး၏ အရိုးအိုးပူဇော်ပွဲကိုပါ ပြုလုပ်၏။

စတုတ္ထဆရာတော်ကြီးလက်ထက်၌ ယခင်ပြုမြဲအတိုင်း ပူဇော်ပွဲ တစ်နှစ် လေးကြိမ်ပူဇော်ပါသည်။ ဒုတိယကမ္ဘာစစ်ဖြစ်၍ ခေတ်ပျက်သောအခါ စစ်ပြေး စစ်ပုန်းများ၏ အကူအညီဖြင့် ပူဇော်ပွဲမပျက် ပူဇော်ခဲ့ကြသည်။

စစ်ကြီးပြီးသွားသောအခါ ဒေါင်းရိုးရပ် အမိဒေါ်ကြီး အမှူးပြုသည့် ဦးပေါ – ဒေါ်အုံးခင်၊ ဦးလှပေါ် – ဒေါ်အေးတို့က ဦးဆောင်၍ ပူဇော်ပွဲ ပြုလုပ်ခဲ့ကြပါသည်။

ယခုအခါတွင်ကား စေတနာရှင် ရဟန်းရှင်လူတို့ အဆက်ဆက်၏ ပြုပြင်လှူဒါန်းမှုဖြင့် ကောင်းမှုတော်ဘုရားကြီးမှာ လွန်စွာသိုက်မြိုက်စည်ကားနေပါသည်။

## ကုသိုလ်တော်များ

### ဘဝရှင်မင်းတရားကြီး

ဘဝရှင်မင်းတရားကြီးအထွဋ်အထိပ်သို့ရောက်လျှင် ငယ်စဉ်ကပင် ကိုးကွယ်ကြည်ညိုရင်းစွဲရှိသော ပထမထွဋ်ခေါင်ဆရာတော်ကြီးကို မြောက်ဥယျာဉ်အတွင်း စံနန်းတော်ကို နေ့စဉ်ပင့်ကာ ဆွမ်းလုပ်ကျွေးပြီး သင်္ကန်းလျာပိတ်အုပ် လှူဘွယ်ဝတ္ထုများကို လှူကြောင်း မှတ်တမ်းများအရ သိနိုင်သည်။

၎င်းအပြင် ထွဋ်ခေါင်ဆရာတော်ကြီး၏မေတ္တာရပ်ခံချက်အရ ခမ္မိကချောင်နှင့် အနီးပတ်ဝန်းကျင်ကို သားငှက်တိရစ္ဆာန်များ ဘေးမဲ့ချမ်းသာခြင်း ပေး၏။

ပဥ္စမသင်္ဂါယနာတင် မင်းတရားကြီး၏ ကုသိုလ်တော်များကို ကျောက်စာတွင် ခမ္မိကချောင် စသော ၂၃ ဌာနတို့၌ ဆောက်လုပ်ပြင်ဆင်တော်မူသော ကျောင်းတော်ကြီး ၂၃ နှင့် အရံကျောင်းတော် ၁၁၇၊ နှစ်ရပ် ကျောင်းတော်ဦးရေ ၁၄၀၊ ဆောင်းတန်းတော် ၄၊ စကြံတော် ၂၊ ရေကန်တော် ၁၁၊ အုတ်ပြာသာဒ်တော်။

ခမ္မိကချောင်စသော ချောင်ပေါင်း ၆၀ ကျော်၊ တောရတိုက်ပေါင်း ၄၀ ကျော်နှင့် ချောက်မြောင်တောင်ရိုးတို့၌ သီတင်းသုံးနေသည့်

အရည၀ါသီပုဂ္ဂိုလ်သူမြတ် ၆၀၀ ကျော်နှင့် ရဟန်း၊ သာမဏေ၊ သူတော်၊ သီလ၊ ရသေ့ စသည်တို့ကို လစဉ် ဆန်၊ ဆီ၊ ဆား၊ ငါးပိ၊ ငရုတ်၊ ကြက်သွန် စသော မရေမတွက်နိုင်သည့် ၅ ဌာနအလှူတော်။

တရားကျမ်းဂန် တတ်ကျွမ်း၍ သီလသိက္ခာနှင့် ပြည့်စုံသူ သီလသည်ကြီးနှင့် အသင်းပါသီလသည်အပေါင်းတို့အား၊ ဂူ၊ ကျောင်း၊ ရေတွင်း၊ ရေကန်၊ ဆွမ်းဆန်၊ ကိုယ်ရုံ၊ စားမဲဟင်းလျာဖိုးမှစ၍ နိဗ္ဗာန ၀တ် ထာ၀ရ ပြုသည့် ကုသိုလ်တော်များကို ပြုတော်မူသည်။

## ဆင်ဖြူမရှင် မိဖုရားကြီး

မန္တလေးမြို့ ရတနာပုံ မြို့တည်နန်းတည် မင်းတရားကြီး၏ အလယ်နန်းမတော်မိဖုရား ဆင်ဖြူမရှင် မိဖုရားကြီးက "စစ်ကိုင်းမြို့ ဓမ္မိကချောင်တွင် ရတနာထွဋ်ခေါင် ဆရာတော်အား ကျောင်းဦး ပြာသာဒ် ဘောဂစနုဆောင်များနှင့်တကွ မှန်စီရွှေချကျောင်းတော် တင်လှူ" သည်။

(ကုန်းဘောင် တတိယ – ၄၄၃)

## အိမ်ရှေ့မင်း

မင်းတရားကြီး၏ညီတော် အိမ်ရှေ့စံ ကနောင်မင်းကလည်း ကုန်စင်ငွေ ၆၄၅၄ – ၁ပဲ တန် စကြံကျောင်းတော်ကို ဓမ္မိကချောင်တွင် လည်းကောင်း၊ ကုန်စင်ငွေ ၅၈၅၆ – ၄ျး – ၁ဲ – ၂ ရွေးရှိ ကျောင်းတော်ကို မင်းကွန်းရွှေမြင်တင်တောင်တွင်လည်း လှူတော်မူသည်။

## မင်းကြီး ဦးကြာဥ

မကွေးမင်းကြီး ဦးကြာဥက ဓမ္မိကချောင်တွင် ဘုရားတည်လို၍ လျှောက်ထားရာ ပထမထွင့်ရှ်ခေါင်ဆရာတော်ကြီးက အရှေ့ဘက် တောင်မကြီးထိပ်ပေါ်တွင် နေရာပေး၏။

ဘုရားတည်ပြီးသောအခါ ဆရာတော်ကြီးက 'ငါက မကွေး မင်းကြီးဆိုလို့ တော်တော်ကြီးကြီးကျယ်ကျယ် တည်လိမ့်မယ် ထင်တာ၊ အခုတော့ ဝပ်ပခြင်းလောက် ရှိတာကိုးကွ' ဟု မိန့်တော်မူ သည်။

## အခြားကုသိုလ်တော်များ

ဓမ္မိကချောင်တွင် နန်းမတော်မြကလေး၏ သိမ်တော်၊ ရမ်းဗြဲ မင်းကြီး၏ စေတီတော်၊ ရန်အောင်မြင်ဝန်ထောက်မင်း ကုသိုလ် ဆင်းတုရုပ်ပွားတော်နှင့် ပြာသာဒ်ဂန္ဓကုဋီကျောင်းတော် စသည်ဖြင့် ကုသိုလ်တော် များစွာ ရှိ၏။

## နန်းကျောင်းအမကြီးများနှင့် ထွင့်ရှ်ခေါင်သာသနာ

မင်းတုန်းမင်းကြီးနှင့် ဆင်ဖြူမရှင်မိဖုရားကြီးတို့က ဓမ္မိကချောင် တွင် မှန်ကျောင်းတော်ကြီးကို ဆောက်လုပ်လှူဒါန်းသည်။ ကျောင်း အလှူတော်ရေစက်ချပွဲအတွက် မင်းတဲနန်း ဆောက်သော မှန်ကျောင်း ကြီး၏ အနောက်ဘက် ကုန်းမြေကို နန်းကျောင်းကုန်းဟု ခေါ်ပါသည်။

နန်းကျောင်းကုန်းပေါ်တွင် မန္တလေးမြို့က ဇရပ်အမကြီးများက ၈-ပင် ၅-ပင် ရှေးပုံစံကျောင်းကြီးတစ်ကျောင်းကို ဆောက်လုပ်

လှူဒါန်းပါသည်။ ထိုကျောင်းကို နန်းကျောင်းဟု ခေါ်ကြ၏။

နန်းကျောင်းအမကြီးတို့သည် နှစ်စဉ်နှစ်တိုင်း ဓမ္မိကချောင်တွင် သီတင်းသုံးသော သံဃာကုန်ကို ဝါဆိုဦးတွင် သင်္ကန်းတစ်စုံကျစီ လှူသည်။ ဆွမ်းကွမ်းအတွက် ဆရာတော်ကြီးကို တစ်လ ၃၀ိ/ နှင့် နန်းကျောင်း၌ သီတင်းသုံးသော အရှင်မြတ်ကို ၅ိ/ နဝကမ္မ လှူဒါန်း ပါသည်။

တန်ဆောင်မုန်းလသို့ ရောက်လျှင် တိစီဝရိက်သင်္ကန်းတစ်စုံပို့ပြီး ကထိန်မရသေးလျှင် ကထိန်ခင်း၏၊ ရပြီးသော် ဆရာတော်ကြီးကို လှူသည်။ တတိယဆရာတော်လက်ထက်တိုင် နန်းကျောင်းအမကြီးက အထက်ပါအတိုင်း နှစ်စဉ် လှူဒါန်း၏။

နန်းကျောင်းအမကြီးက ရေရှားပါးသော နွေရာသီရောက်တိုင်း ထန်းတောရွာက ရေစည်သမားတစ်ဦးကို နေ့စဉ် ရေပို့စေပါသည်။ ဧရာဝတီမြစ်ရေကို ရေစည်သမားက သယ်ယူကာ ဓမ္မိကချောင်ဝမှစ၍ ရေလိုသောကျောင်းတိုင်းကို အလှူခံရယူစေပြီး နန်းကျောင်းအမကြီးက လစဉ် ရေစည်သမားကို ရေဖိုးငွေ ရှင်းပေးကာ ကုသိုလ်ယူ၏။

ဒုတိယဆရာတော်ကြီး ပျံလွန်တော်မူချိန်တွင် မင်းဆက်ပြတ်ခဲ့ပြီ ဖြစ်ရကား နန်းကျောင်းအမကြီးကပင် စျာပနကို တာဝန်ယူဆောင်ရွက် ပါသည်။

တတိယဆရာတော်ကြီးလက်ထက်တော်သို့ ရောက်သောအခါ နန်းကျောင်းကြီး၏ ပျက်စီးယိုယွင်းမှုများကို သားသမီးများဖြစ်သည့် ဒေါ်ပု၊ ဒေါ်ဝိ၊ ဦးကျော်၊ ဒေါ်ဦး၊ ဒေါ်ဇင်၊ ဦးသိန်းတို့က ပြုပြင် ဆောက်လုပ်ကြသည်။ ၁၂၈၂ ခု တန်ဆောင်မုန်းလဆန်း ၁၄ ရက်နေ့ ဒါးတန်းကထိန်တော်ကြီးနှင့်တွဲပြီး ကျောင်းရေစက်ချပွဲ ပြုလုပ်ပါသည်။

တတိယဆရာတော်ကြီး ဘဝနတ်ထံ စံတော်မူသည့်အခါ နန်းကျောင်းအမကြီးများဖြစ်ကြသော ဒေါ်ပု၊ ဒေါ်ဇင်၊ ဒေါ်ဝိတို့ ကိုယ်တိုင်လာရောက်၍ ရှာပနပွဲပြုလုပ်ပြီး ပင့်သံဃာတော်များကို ဆွမ်းဆက်ကပ်၍ လှူဖွယ်ဝတ္ထုများ လှူဒါန်းပူဇော်ကြသည်။

စတုတ္ထဆရာတော်လက်ထက်တွင်လည်း အလှူဝတ်ကို နန်းကျောင်းအမများက ပြုမြဲပြုကြပါသည်။ မြောက်တိုက်ကို ဒါးတန်းဒေါ်သိန်းက တာဝန်ယူပြီး တောင်တိုက်ကို ဒေါ်ကြည်ကြည်က တာဝန်ယူ၍ လှူကြသည်။

စတုတ္ထဆရာတော်ကြီး၏ ကျန်းမာရေး ချွတ်ယွင်းတော်မူချိန်တွင်လည်း ဒါးတန်း ဒေါ်သိန်းက ကမကထပြု၍ ပျံလွန်တော်မူသည့်အခါတွင် ဒေါ်သိန်း၊ ဒေါ်ကြည်ကြည်တို့ကပင် တာဝန်ယူ၍ လှူမြဲလှူကြ၏။

နန်းကျောင်းကြီးမှာ ယခုအခါ သက်တမ်း ၇၀ နှစ် ကျော်ပြီဖြစ်သောကြောင့် ပျက်စီးယိုယွင်းစ ပြုလာခဲ့ရာ မြေးများဖြစ်သော ဗိုလ်ကြီးကိုကိုကြီး၊ ဒေါ်ကြင်သန်းစသည်တို့က ထပ်မံပြုပြင်နေကြသည်။

ခမ္မိကချောင်ကြီးကို မင်း၊ မိဖုရား၊ မှူးကြီး၊ မတ်ကြီးမှ အစသူဌေးသူကြွယ်၊ တောင်သူလယ်လုပ်အဆုံး ဒါယကာ ဒါယိကာမများ၏ စေတနာသဒ္ဓါဖြင့် ကျောင်းကန် တန်ဆောင်းများကို တည်ဆောက်ခဲ့ခြင်း ဖြစ်ပါသည်။ အချို့ဒကာ ဒကာမများသည် ခမ္မိကချောင်နှင့် အဆက်ပြတ်ကြသော်လည်း နန်းကျောင်းအမကြီး၏ မြေး၊ မြစ်များကား ခမ္မိကချောင်နှင့် စဉ်ဆက်မပြတ်ဘဲ သာသနာ့ပြုကာ လှူဒါန်းနေကြဆဲပင် ဖြစ်ကြပါသည်။

# နိဂုံး

တစ်ခေတ် တစ်ခါက လွန်စွာစည်ပင် ထွန်းကားခဲ့သော ခမ္မိကချောင်နှင့် ရတနာထွင့်ခေါင် သာသနာကို လက်လှမ်းမီသမျှ အထောက်အထား၊ အကိုးအကားများကို အခြေတည်၍ ပြုစုထားရှိခြင်း ဖြစ်ပါသည်။

ဤစာအုပ်ကို ဖတ်ရှုမိသူများအနေဖြင့် သာသနာတော်နှင့် ဆရာတော်ကြီးကို ကြည်ညိုသဒ္ဓါစိတ်ဖြစ်ပေါ်ပြီး ကောင်းမှုကုသိုလ် ပွားများကြမည်၊ ကမ္မဋ္ဌာန်းဘာဝနာ အားထုတ်ကြမည်၊ စာပေဗဟုသုတ ရရှိကြမည်ဆိုလျှင် ဤစာစုကို ပြုစုရကျိုးနပ်၏ဟု ထင်ပါသည်။

ခမ္မိကချောင်နှင့် ထွင့်ခေါင်သာသနာနှင့် ပတ်သက်၍ ဤစာအုပ်မှာ ပြီးပြည့်စုံသောစာအုပ်တစ်အုပ် ဖြစ်မည်မဟုတ်ပါ။ သုတေသီများအနေဖြင့် မိမိတို့တွင်ရှိသော အထောက်အထားများအရ ထပ်မံဖြည့်စွက်ပေးပါက များစွာကျေးဇူးကြီးမည် ဖြစ်ပါသည်။

ပညာရှိသူတော်ကောင်းများအနေဖြင့် အားနည်းချွတ်ယွင်းချက်များ တွေ့ရှိ ပြုပြင်ပေးမည်ဆိုပါကလည်း စာရေးသူအနေဖြင့် လက်ခံမည် ဖြစ်ပါကြောင်း။

**ဦးခန္တီစာရ**
ခမ္မိကချောင်
စစ်ကိုင်းတောင်ရိုး

# နိဂုံးနှင့်သမိုင်းပြု ပဋ္ဌမထွင့်ခေါင်ဆရာတော်

ကျေးရှူးရှင် ထွင့်ခေါင်ဆရာတော်ဘုရားကြီး (၄) ပါး၏ထေရုပ္ပတ္တိနှင့် ဓမ္မိကကျောင်းသမိုင်းကို ရေးသားပြုစုတော်မူသော အရှင်ခန္တီစာရ (ယခု သီတင်းသုံး နေထိုင်တော်မူဆဲ ပဋ္ဌမထွင့်ခေါင်ဆရာတော်) သည် ဂန္ထဓုရ၊ ဝိပဿနာဓုရ နှစ်ပါးကို ရှေးဆရာတော်ဘုရားကြီးများ ကဲ့သို့ ထပ်တူ ကျင့်သုံး စံပယ် နေထိုင်တော်မူပါသည်။

ငယ်ရွယ်စဉ်က သာမဏေအဖြစ် ခေတ္တခဏမျှသာ ဝတ်ခဲ့ရပြီး ၁၉ နှစ်ကျော် အရွယ်ရောက်မှသာ သာမဏေကြီးနှင့် ရဟန်းဘဝကို တစ်ကြိမ်တည်း တက်ရောက်ခဲ့ပေသည်။

၁၂၈၉ ခု၊ တပေါင်းလဆန်း ၈ ရက် တနင်္လာနေ့တွင် စစ်ကိုင်းမြို့နယ် ကျောက်တာရွာ သူကြီး ဦးချို - သူကြီးကတော် ဒေါ်ရွှေမြမှ ဖွားမြင်၍ ၁၉ နှစ်အရွယ်ထိ အတန်းကျောင်းများမှ ၉ တန်းအထိ မြန်မာစာ သင်ကြား တတ်မြောက်ခဲ့သည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်း (၁၃၀၄ ခုနှစ်မှ ၁၃၀၆ ခုနှစ်ကုန်) တွင် ဓမ္မိကကျောင်း စတုတ္ထထွင့်ခေါင်ဆရာတော်ကြီး ထံတော်မှောက်နှင့် ရွာကို ကူးသန်းနေထိုင်ခဲ့ရာမှ ၁၃၀၉ ခုနှစ်တွင် ရဟန်းခံရန် အသက်ပြည့်၍ ဆရာတော်ဘုရားကြီးအား ဥပဇ္ဈာယ်ပြုလျက် ရဟန်းဘောင်တက်ခဲ့ရသည်။

ရဟန်းဝတ်ပြီးသည်နှင့်တပြိုင်နက် ယွှာညောင်ဦးမြို့ ဂူကျောင်းဆရာတော် ဦးဇာဂရနှင့် တွဲဖက်၍ စတုတ္ထထွင့်ခေါင်ဆရာတော်ဘုရားကြီးထံ ၄ နှစ်မျှ စာပေပညာကို သင်ကြားကြရပေသည်။ ညောင်ဦးဆရာတော် ပြန်လည်ကြွသွားသောအခါ တစ်ပါးတည်း ဆက်လက်၍ စာပေပညာကို သင်ကြားရင်း အခါအားလျော်စွာ မန္တလေး ခင်မကန်

တိုက် အုတ်လှေကားကျောင်းမှ ဦးလေးတော် အရှင်ဦးဉာဏိန္ဒဆရာတော်ဘုရားထံ မသိနားမလည်သော စာများကို လျှောက်ထား မေးမြန်းခဲ့ပေသည်။ သဒ္ဒါ၊ သင်္ဂြိုဟ်နှင့်တကွ ဝိနည်း ၅ ကျမ်းတို့ကို စတုတ္ထဆရာတော်ထံတွင် သင်ကြားနာယူခဲ့၍ ဆရာတော် မကျန်းမာသောအခါ တစ်ပါးတည်း လှေလှော ဆည်းပူးခဲ့ရပေသည်။

အကျင့်နှင့်ပတ်သက်၍လည်း တောကျောင်းနေ အရညကင်ဓုတင်၊ ဧကာသနိက်၊ ပတ္တပိုဏ်၊ ပိဏ္ဍပါတ်၊ ခလုပစ္ဆာ စသော ဆွမ်းနှင့်ပတ်သက်သော ဓုတင်များကို ရဟန်းဖြစ်သည်မှစ၍ ကျင့်သုံးဆောက်တည်ခဲ့ရာ ဥပဇ္ဈာယ်ဆရာတော်ကြီး လေငန်းရောဂါ စွဲကပ်သောအခါ အနီးကပ်ပြုစုခဲ့ရခြင်းဖြင့် ၁၃၂၆ ခုနှစ် ၁၈ ဝါအရတွင် ပိဏ္ဍပါတ် ဓုတင် တစ်မျိုးပျက်ခဲ့ရပြီး ကျန်ဓုတင်များ ဆက်လက် ကျင့်သုံးလျက် ၁၃၄၂ ခုနှစ် မြို့နယ်သံဃနာယကအဖွဲ့ဝင် ဖြစ်မှသာ ကျန်ဓုတင်များ အားလုံးပျက်ခဲ့ရပေသည်။

၁၃၄၂ ခုနှစ်မှာပင် ပထမထွင့်ခေါင် ဆရာတော်ဘုရားကြီး၏ ပျံလွန်တော်မူသော နှစ်တစ်ရာပြည့် အထိမ်းအမှတ် ဂုဏ်ပြုသောအားဖြင့် ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချရာ ဂူသုံးပေါက်မှ တော၊ တောင်ဖုံးလွှမ်းနေသည်တို့ကို ခုတ်ထွင်ရှင်းလင်းပြီး နှစ်တစ်ရာပြည့် ကျောက်တိုင် စိုက်ထူခြင်း၊ ၎င်းဂူမှာပင် ဝါဆို ဝါကပ်ပြုကာ ထိုက်သင့်ရာ တရားဓမ္မများ အားထုတ်ခဲ့ခြင်းဖြင့် စိဋ္ဌာန်သော (၁၀)နှစ် မပြည့်မီ (၆) နှစ်အရတွင် တီဘီရောဂါ စွဲကပ်ခြင်း၊ အမောရောဂါကလည်း မပျောက်ဘဲ ရုပ်ခန္ဓာဒဏ်ချက် ပြင်းထန်လှသဖြင့် အားထုတ်လက်စ တရားဓမ္မများကို ရပ်ဆိုင်းလိုက်ရပေသည်။

ကြားဖြတ်အနေဖြင့် ဤနိဂုံးအမှာစကားကို ရေးသားပူဇော်သူ ဦးပဥ္စင်းကြီး (ယွင် ပစ္စည်းလေးပါး ဒါယကာ ဦးထွန်းကြည် – ဒေါ်သိန်းခင်

နှင့် သား၊ သမီး၊ မြေး တစ်စု) မင်းကွန်း ဗုဒ္ဓဘာသာ လူအိုရုံ အုပ်ချုပ်ရေးမှူးနှင့် နောက်ဆုံး အတွင်းရေးမှူး ဦးထွန်းကြည်သည် ၁၃၁၅ ခုနှစ်တွင် စတုတ္ထထွင့်ခေါင်ဆရာတော်ထံမှောက် အဓိဋ္ဌာန်ဖြင့် တစ်လတိတိ ပံသုကူစုတင်မှအပ ကျန်စုတင် ၁၂ ပါးဖြင့် ဒုလ္လဘတ် ရဟန်းအဖြစ် တက်ရောက်ရာမှ ပဋ္ဌမဆရာတော် ဦးခန္တီစာရကို ဦးပဋ္ဌင်းအဖြစ် စတင်ဖူးမြော်ခွင့် ရခဲ့ခြင်း ဖြစ်ပါသည်။ (ဦးပဋ္ဌင်းကြီးတို့မှာ အစဉ်အဆက် ပစ္စည်းလေးပါး ဒါယကာ ဒါယိကာမများ ဖြစ်ရသည်မှာလည်း ဒါယိကာမ ဒေါ်သိန်းခင်၏ မိဘနှစ်ပါးဖြစ်သူ ပဲလှော်ချောင်ရပ် ပဲပွဲစားကြီး ဦးတင် -ဒေါ်မျှင်တို့မှာ တတိယထွင့်ခေါင်ဆရာတော်ဘုရား လက်ထက်တော်တွင် မဟာဓမ္မိကာရာမ ကျောက်ဂူကြီးနှင့် ရေကန်ကို လှူဒါန်းပူဇော်ခဲ့ရာမှ သားစဉ်မြေးဆက် ကြည်ညို ပူဇော်ခွင့် ရခဲ့ကြခြင်း ဖြစ်ပါသည်)

ပဋ္ဌမထွင့်ခေါင်ဆရာတော်သည် အထက်တွင် ပြဆိုခဲ့သည့်အတိုင်း ၁၃၂၆ ခုနှစ်တွင် စတုတ္ထထွင့်ခေါင်ဆရာတော်ဘုရားကြီး လေငန်းရောဂါ စွဲကပ်သည်မှစ၍ မနားတမ်း အနီးကပ် ပြုစုတော် မူခဲ့ရာမှ ၁၃၃၀ ခုနှစ် တပေါင်းလပြည့်ကျော် ၆ ရက်တွင် ပျံလွန်တော်မူသဖြင့် စတုတ္ထထွင့်ခေါင်ဆရာတော်၏ လုပ်ငန်းတာဝန်များကို ဆက်လက်၍ တာဝန်ယူကာ ဓမ္မိကချောင်ကြီးကို ထိန်းသိမ်း စောင့်ရှောက် သီတင်းသုံး နေထိုင်ခဲ့သည်မှာ ယခုတိုင်ပင် ဖြစ်ပါသည်။

ပဋ္ဌမထွင့်ခေါင်ဆရာတော်သည် စတုတ္ထထွင့်ခေါင်ဆရာတော်နှင့် စာပေဗဟုသုတကို အနှစ် (၂၀) လုံးလုံး တပည့်အဖြစ် ခံယူ ဆည်းပူးခဲ့ရသဖြင့် ပထမဆရာတော်မှစ၍ စတုတ္ထဆရာတော်တိုင်အောင် ကျေးဇူးဂုဏ်ကြီးမားကြပေကုန်သော ဆရာတော်ဘုရားကြီးတို့အား ဂုဏပူဇာအနေဖြင့် ပူဇော်ထိုက်သည်ဟု ခံယူတော်မူသည့်အတိုင်း ၁၃၃၂ ခုနှစ်တွင် ချောင်

သမိုင်းနှင့် ထေရုပ္ပတ္တိများကို လက်ရေးစာမူမှ လက်နှိပ်စက် စာမူချော အဖြစ် ရိုက်နှိပ်ပေးရန် ဦးပဥ္စင်းကြီးအား တာဝန်ပေးလာပါသည်။ ထိုစဉ်က ဦးပဥ္စင်းကြီးမှာ ဘုတ်ကော်ပိုရေးရှင်း အစိုးရတာဝန် အရပ်ရပ်ဖြင့် ဆ.စ.တ.က မြို့နယ် ပြည်သူ့ပိုင် လုပ်ငန်းတာဝန် စာရင်းအင်းများ ထိန်းသိမ်းလုပ်ကိုင်ခြင်း၊ တစ်ဆက်တည်း ကုန်သွယ်ရေး ကော်ပိုရေးရှင်း (၈) စက္ကူနှင့်ခါတ်ပုံပစ္စည်း ဖြန့်ဖြူးရေး အထက်ဗမာပြည် (ဆိုင်ထိုင်) တာဝန်ခံအဖြစ်နှင့် လုပ်ကိုင်နေဆဲ ဖြစ်ပါသည်။ သို့ဖြစ်၍ တာဝန်ရှိရာ ရုံးခန်းမှ လက်နှိပ်စက်စာရေးအား တာဝန်ပေး ရိုက်နှိပ် လှူဒါန်းပူဇော်ခဲ့ပါသည်။

ထိုစာမူများ လှူဒါန်းပြီးသည့်နောက် ပဥ္စမဆရာတော်သည် ရန်ကုန်မြို့ရှိ ဆိုင်ရာဆိုင်ရာ စာအုပ်ထုတ်ဝေရေး ဒါယကာ ဒါယိကာမ အသီးသီးတို့နှင့် ဆက်သွယ်၍ သမိုင်းစာအုပ် ထုတ်ဝေရန် ကြိုးစားခဲ့သော်လည်း မအောင်မြင်ဘဲ ယခုအချိန်ထိ ကြာမြင့်လာခဲ့ခြင်း ဖြစ်ပါသည်။

ဦးပဥ္စင်းကြီးမှာလည်း ထိုအချိန်မှစ၍ ကြီးလေးလှသော နိုင်ငံဝန်ထမ်း တာဝန်များ ထမ်းဆောင်ရင်း ၁၃၃၆ ခုနှစ်တွင် ဝန်ထမ်းမှ အနားယူ၍ မင်းကွန်း တိပိဋက ဆရာတော်ဘုရားကြီး တာဝန်ပေးချက်အရ မိုးမိတ်ဘုရားကြီး စောင့်ရှောက်ရေး ဂေါပကအဖွဲ့ဝင် ၁၃၄၀ ခုနှစ်တွင် တိပိဋကနိကာယ သာသနာပြုအဖွဲ့ကို ဓမ္မဒါန တိုက်အုပ်ဆရာတော်ဘုရား (ဦးဥက္ကံသာဘိဝံသ ပျံလွန်) နှင့် ကွယ်လွန်သူ ဒါယကာ (ဦးသိန်း လမ်းလယ်ဘုရား ဂေါပက) နှင့် တွဲဖက်၍ စတင် ဖွဲ့စည်းတည်ထောင်ကာ သာသနာ့တာဝန်ကို အားစိုက်ခွန်စိုက် လုပ်ဆောင်ရာ ပထမဝါ သံဃာတော် (၄၈) ပါး၊ ဒုတိယဝါ သံဃာတော် (၈၂) ပါး သီတင်းသုံးတော်မူပြီးနောက် အဖွဲ့မှ နှုတ်ထွက်ခဲ့ပါသည်။ ထို့နောက် လူမှုရေးအဖွဲ့အစည်းဖြစ်သည့် မင်းကွန်း ဗုဒ္ဓဘာသာလူ့အိုရုံတွင် ဆောင်

ရွက်ကာ ရဟန်းဘောင်သို့ တက်ရောက်သည်။ ၁၃၅၃ ခုနှစ်တိုင်အောင် နိုင်ငံတော် သာသနာ၊ ဘာသာ၊ လူမှုရေးများတွင် စရဏအနေဖြင့် လုပ်ဆောင်ခဲ့ရ၍ ပဋ္ဌမဆရာတော်အား ဖူးတွေ့ခွင့် မရတော့ဘဲ တတ်အား သမျှ လှူဒါန်းမှုကိုသာ မိသားစုက အားထုတ်ခဲ့ကြရပေသည်။

ပဋ္ဌမဆရာတော်၏ ရည်ရွယ်တော်မူရင်း ဂုဏပူဇာ သမိုင်း စာအုပ်မှာ ပြည့်စုံရန် အချိန်ရောက်ရှိလာပြီ ဖြစ်သဖြင့် ဦးပဋ္ဌင်းကြီး ရောက်ရှိ သီတင်းသုံးသောအခါ ပဋ္ဌမဆရာတော်က လက်ရေးမူသာ ရှိတော့သော သမိုင်းစာစောင်ကို ထုတ်၍ပေးရာ ဆရာတော်၏ နှစ်ရှည် လများ ဆန္ဒတော်ရှိခဲ့သော ချောင်သမိုင်းနှင့် ဆရာတော်ကြီးများ၏ ထေရုပ္ပတ္တိစာအုပ်ကို ကြိုးစားခဲ့ခြင်းဖြင့် ယင်းစာအုပ် ဖြစ်မြောက်ရေး တွင် အထူးကူညီ ဆောင်ရွက်ကြသော မန္တလေး ဘုံဘိုင်တန်းရပ် ဒါယကာကြီး ဦးသိန်းမောင် (သိန်းဘလောက်) အားလည်းကောင်း၊ ဒါယိကာမကြီး လူထုဒေါ်အမာအားလည်းကောင်း၊ စာမူ ပြင်ဆင်ရေးသား တည်းဖြတ်ပေးသည့် ဦးကျော်ရင်မြင့်အားလည်းကောင်း၊ ဘာသာရေး ကင်းလွတ်ခွင့်မှအစ မလိုရအောင် ဆောင်ရွက်ပေးကြသော ထိုထိုဤဤ အဋ္ဌလီဂါရဝဖြင့် တတ်အားသမျှ နဝကမ္မဝတ္ထု အစုစုကို လှူဒါန်းကြပေသော အလှူရှင် ဒါယကာ ဒါယိကာမ အသီးသီးတို့အားလည်းကောင်း၊ ပါရမီ ဖြည့်ဖော် ဖြည့်ဖက်အဖြစ် ကျေးဇူးတင် ဝမ်းမြောက်လျက် ဤသမိုင်းတွင် မော်ကွန်းဝင်အဖြစ် မော်ကွန်းထိုးအပ်ပါသည်။

ကျေးဇူးရှင် တိပိဋကက ဆရာတော်ဘုရားကြီး၏ မယ်တော်ကြီး သီလရှင်ဆရာကြီး ဒေါ်ခမ္မစာရီ၏ –

> "တောင်တွေး မြောက်တွေး စိတ်မလေးနှင့်၊
> တောင်ကြံ မြောက်ကြံ မပူပန်နှင့်၊
> ကံစီမံရာ ဖြစ်လိမ့်မည်။"

ဟူသော ဆောင်ပုဒ်အရ ပဋ္ဌမထွင့်ရုံခေါင်ဆရာတော်ဘုရား ကြံစည် အားထုတ်ခဲ့သည်မှာ ထိုစဉ်က မအောင်မြင်ဘဲ ယခုစာအုပ် ထုတ်ဝေရန် ဖြစ်မြောက်လာသည့် ကံကံ စီမံလိုက်သဖြင့် ကြီးမားလှသော ဆန္ဒတော် နှင့် ရည်ရွယ်တော်မူသည့် ဂုဏပူဇာလုပ်ငန်းကြီး အောင်မြင်ခဲ့ရာ ပဋ္ဌမ ထွင့်ရုံခေါင်ဆရာတော်သည် ကာယစိတ္တ သုခနှစ်ဖြာ ပြည့်စုံပြီ ဖြစ်ပါ တော့သည်။

**အထူးသဖြင့် –**

စတုတ္ထထွင့်ရုံခေါင်ဆရာတော်နှင့် လွန်စွာရင်းနှီး အကြွမ်းဝင်သော မန္တလေးမြို့ ဒေါင်းရိုးရပ် ပွဲစားကြီး ဦးပေါ – ဒေါ်အုန်းခင် မိသားစု၊

ယခု ပဋ္ဌမထွင့်ရုံခေါင်ဆရာတော်နှင့် လွန်စွာရင်းနှီး အကြွမ်းဝင်သော မန္တလေးမြို့ ဈေးချိုတော် စိန်လှသက်ဆိုင် ဒေါ်စိန်စိန်၊ သမီး – ခင်လှလှ၊ သား – ကိုမောင်မောင် မိသားစု၊

မန္တလေမြို့ ဒါးတန်း ဦးသန့်ဝင်းကြီးနေ ဒေါ်ကျင်သန်း (ဗိုလ်ကြီး ကိုကိုကြီး) မိသားစုတို့သည်လည်းကောင်း၊ အခြားအခြား ကျန်ရှိသော ရင်းနှီးသည့် ဒါယကာ – ဒါယိကာမများ အားလုံးတို့သည်လည်းကောင်း၊ မိမိတို့ ကြည်ညို ဆည်းကပ်ရာ ဆရာတော်ဘုရားကြီးများ၏ လဒ္ဓိ ပေသလ၊ သိက္ခာကာမ၊ ဂုဏဝန္တနှင့် ပြည့်စုံသောသမိုင်း တည်ရစ်မည်ကို ဝမ်းမြောက် ကြည်နူး သာဓု အနုမောဒနာ ပြုနိုင်ကြလိမ့်မည်ဟု ယုံကြည် သိမှတ်ပါ တော့သတည်း။

ဗုဒ္ဓေါ မယုံ သုခံ ဒေတ
ဦးပဋ္ဌင်းကြီး ဦးဓမ္မာစာရ
ဓမ္မိကချောင်ကြီး။

ဓမ္မိကချောင်သမိုင်းနှင့်

ထွင့်ရှုခေါင်ဆရာတော်ဘုရားကြီးများ၏

ထေရုပ္ပတ္တိစာအုပ်ဖြစ်မြောက်ရေး လှူဒါန်းကြသော

နဝကမ္မဝတ္ထုငွေ ကုသိုလ်ရှင်များ

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ ကျပ် – ပြား |
|---|---|---|
| ၁။ | ဆရာတော် ဦးခန္တီစာရ ဓမ္မိကချောင်ကြီး<br>စစ်ကိုင်းတောင်ရိုး မြောက်ပိုင်း။ | ၅၀၀၀ – |
| ၂။ | ဘုန်းတော်ကြီး ဦးကုသလ<br>ရတနာထွင့်ရှုခေါင်ချောင် (တိုက်သစ်)<br>စစ်ကိုင်းတောင်ရိုး မြောက်ပိုင်း။ | ၃၀၀၀ – |
| ၃။ | ဆရာတော် ဦးအစ္စရိယနှင့်<br>ကျောင်းအမကြီး မြေး၊ မြစ်။<br>ဒွေးတော်ကြီး၊ အစ်မကြီးမိသားစု<br>အုတ်လှေကားကျောင်း ခင်မကန်တိုက်<br>မန္တလေးမြို့။ | ၂၀၀၀ – |
| ၄။ | ဘုန်းတော်ကြီး ဦးတေဇ ဓမ္မိကဝံသချောင်<br>စစ်ကိုင်းတောင်ရိုး မြောက်ပိုင်း။ | ၁၀၀၀ – |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ ကျပ် | ပြား |
|---|---|---|---|
| ၅။ | ဘုန်းတော်ကြီး ဦးဇောတိက ဆုတောင်းပြည့်ကျောင်း ချင်းစုရပ် စစ်ကိုင်းမြို့။ | ၅၀၀ | - |
| ၆။ | ဘုန်းတော်ကြီး ဦးဇဝန နီလာဦးကျောင်း တိုးချဲ့မြို့သစ် ချင်းစုရပ် စစ်ကိုင်းမြို့။ | ၅၀၀ | - |
| ၇။ | ဘုန်းတော်ကြီး ဦးခေမိန္ဒ သပြေလှကျောင်း မြတောင် ထီးချိုင့်မြို့။ | ၅၀၀ | - |
| ၈။ | ပဓာနနာယကဆရာတော် ဦးကောဏ္ဍည ဣန္ဒာသယတောင်ဖီလာ စစ်ကိုင်းတောင်ရိုး။ | ၃၀၀ | - |
| ၉။ | ဦးစန္ဒာသီရိ ရတနာထွန်းခေါင်ချောင် (တိုက်သစ်) စစ်ကိုင်းတောင်ရိုး မြောက်ပိုင်း။ | ၃၀၀ | - |
| ၁၀။ | ဦးပဥ္စင်းကြီး ဦးကောသလ္လ ရတနာထွန်းခေါင်ချောင် (တိုက်သစ်) စစ်ကိုင်းတောင်ရိုး မြောက်ပိုင်း။ | ၁၀၀ | - |
| ၁၁။ | ဦးသောဘဏ ဓမ္မိကချောင်ကြီး စစ်ကိုင်းတောင်ရိုး မြောက်ပိုင်း။ | ၃၀၀ | - |
| ၁၂။ | ဦးပဥ္စင်းကြီး ဦးဓမ္မာစာရ ဓမ္မိကချောင်ကြီး စစ်ကိုင်းတောင်ရိုး မြောက်ပိုင်း။ | ၂၀၀၀ | - |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ ကျပ် | ပြား |
|---|---|---|---|
| ၁၃။ | သီလရှင်ဆရာကြီး ဒေါ်သုခဝတီ<br>သရိုင်ချောင် စစ်ကိုင်းတောင်ရိုး စစ်ကိုင်း။ | ၁၀၀၀ | - |
| ၁၄။ | ရသေ့မ ဒေါ်ညွန့်ရီ (မုံရွာ)<br>ကုဿာသယတောင်ဖီလာ စစ်ကိုင်းတောင်ရိုး<br>စစ်ကိုင်း။ | ၅၀၀ | - |
| ၁၅။ | ဦးအောင်သိန်း - ဒေါ်ထိ<br>(ငန်းတံဆိပ် ပဲမှုန့်ကြိတ်စက်)<br>၈၇ လမ်း၊ ပဲလှော်ချောင် မန္တလေးမြို့။ | ၁၀၀၀ | - |
| ၁၆။ | ဦးသန်းမောင် - ဒေါ်တင်ရီ မိသားစု<br>ကုန်စုံရောင်းဝယ်ရေး ပိုက်ကျုံး မန္တလေးမြို့။ | ၁၀၀၀ | - |
| ၁၇။ | (ဦးပြည့်စုံ အမေ ဒေါ်စိန်လှ) တူမ ဒေါ်နု<br>ပွဲကုန်း မန္တလေးမြို့။ | ၅၀၀ | - |
| ၁၈။ | (ဦးကိုကိုကြီး) ဒေါ်ကြင်သန်း<br>ဆိုင်းတန်း မန္တလေးမြို့။ | ၃၀၀၀ | - |
| ၁၉။ | ဒေါ်ခင်ဆွေ (ပဒုမ္မာခန်းမ)<br>ဆိုင်းတန်း မန္တလေးမြို့။ | ၂၀၀ | - |
| ၂၀။ | အောင်တံခွန် သင်္ကန်းပရိက္ခရာ မိသားစု<br>အိမ်တော်ရာ မန္တလေးမြို့။ | ၅၀၀ | - |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ ကျပ် – ပြား |
|---|---|---|
| ၂၁။ | ဦးစောမောင် – ဒေါ်သန်းငွေ (အလှုကုန်နှင့် သံသေတ္တာ) ရေကြည် မန္တလေးမြို့။ | ၃၀၀ – |
| ၂၂။ | ဦးကံကော် – ဒေါ်တင်ကြည်၊ ဆီစက် ၃၈ လမ်း၊ မန္တလေးမြို့။ | ၁၀၀ – |
| ၂၃။ | (ဦးပေါ – ဒေါ်တူး) သမီး – မသီဂီ နန်းရှေ့၊ မန္တလေးမြို့။ | ၁၀၀၀ – |
| ၂၄။ | ၎င်း သမီး – ကိုသန်းထွန်းဦး – မချို နန်းရှေ့ မန္တလေးမြို့။ | ၁၀၀၀ – |
| ၂၅။ | ၎င်း သား – ကိုမောင်မောင် – မမြင့်ကြည် ဘုရားကြီး မန္တလေးမြို့။ | ၅၀၀ – |
| ၂၆။ | ဦးယုံမြင့် – ဒေါ်ဒါလီ (ဒါးတန်း မန္တလေး) ရန်ကုန်မြို့။ | ၁၀၀၀ – |
| ၂၇။ | (ဦးမောင်ကို) ဒေါ်စိန်စိန် (စိန်လှက်ဆိုင်) ဈေးချို မန္တလေးမြို့။ | ၁၀၀ – |
| ၂၈။ | ဦးချစ်တင် – ဒေါ်တင်အေး ဘုရားကြီး မန္တလေးမြို့။ | ၅၀ – |
| ၂၉။ | ဦးခင်မောင်ကြည် – ဒေါ်မူမူရွှေ မိသားစု မဟာဗေယျာဘုံ မန္တလေးမြို့။ | ၁၀၀ – |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ<br>ကျပ် - ပြား |
|---|---|---|
| ၃ ၊ | ဦးတင်မောင်ဦး - ဒေါ်ခင်အုန်းမြင့် မိသားစု<br>(ဂန္ဓာ) ဘုံဘိုင်တန်း မန္တလေးမြို့။ | ၃၀၀၀ - |
| ၃၁။ | ဦးအေးကျော် - ဒေါ်ဝင်းဝင်းမာ<br>(အောင်နည်းပြ) ၈၆ လမ်း၊ ပဲလှော်ချောင်<br>မန္တလေးမြို့။ | ၃၀၀ - |
| ၃၂။ | ဒေါက်တာ မြင့်သိန်း - ဒေါ်နွယ်နီအောင်<br>မိသားစု မန်းတက္ကသိုလ် မန္တလေးမြို့။ | ၃၀၀ - |
| ၃၃။ | ဦးညွန့်ဝင်း - ဒေါ်နန်းသန္တာဟန် မိသားစု<br>(မဥ္ဇူရတနာနည်းပြ) ပဲလှော်ချောင်<br>မန္တလေးမြို့။ | ၂၀၀ - |
| ၃၄။ | ဦးတင်မြင့် - ဒေါ်အေးအေး မိသားစု<br>အိမ်တော်ရာဆင်တဲတား မန္တလေးမြို့။ | ၂၀၀ - |
| ၃၅။ | ဦးသောကြာ၊ မြရည်နန္ဒာမြို့သစ်<br>မန္တလေးမြို့။ | ၂၀၀ - |
| ၃၆။ | ဦးသံချောင်း၊ မလွန် ဆေးရိုးဝင်း<br>မန္တလေးမြို့။ | ၂၀၀ - |
| ၃၇။ | ဦးကောက်စိန် (ခ) ဦးသန်းမောင်<br>ဝင်းလိုက်ရပ်ရှင်ရုံဝင်း မန္တလေးမြို့။ | ၂၀၀ - |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ<br>ကျပ် - ပြား |
|---|---|---|
| ၃၈။ | ဦးစိုးစိုး - ဒေါ်ခင်နွယ်ဝင်း၊<br>သား - ရန်နိုင်ဝင်း<br>၃၅ အေလမ်း မန္တလေးမြို့။ | ၂၀၀ - |
| ၃၉။ | ဒေါက်တာ မြင့်သိန်း - ဒေါ်ခင်ခင်မေ<br>ဒါးတန်း မန္တလေးမြို့။ | ၁၀၀၀ - |
| ၄၀။ | ဒေါ်ညွန့်ညွန့်၊ ဒါးတန်း မန္တလေးမြို့။ | ၁၀၀၀ - |
| ၄၁။ | ဦးပေါ - ဒေါ်တီတီ၊ ဒါးတန်း မန္တလေးမြို့။ | ၅၀၀ - |
| ၄၂။ | ဒေါက်တာ နွယ်နွယ်၊ ဒါးတန်း မန္တလေးမြို့။ | ၄၅၀ - |
| ၄၃။ | ဒေါ်ခင်သန့်ဇင်၊ ဒါးတန်း မန္တလေးမြို့။ | ၄၀၅ - |
| ၄၄။ | ဒေါ်စန်းစန်း၊ ဒါးတန်း မန္တလေးမြို့။ | ၁၀၀ - |
| ၄၅။ | ဦးကျော်မြင့် - ဒေါ်ရီရီ၊ မဝေဝေသန်း<br>ဒါးတန်း မန္တလေးမြို့။ | ၁၀၀ - |
| ၄၆။ | ကိုဝေလင်း - မကြူကြူဝင်း၊ ဒါးတန်း<br>မန္တလေးမြို့။ | ၁၀၀ - |
| ၄၇။ | ဦးကျောက်လုံး - ဒေါ်လီလီညွန့်<br>ဒါးတန်း မန္တလေးမြို့။ | ၁၀၀ - |
| ၄၈။ | ဒေါ်သန်းသန်း၊ ဒါးတန်း မန္တလေးမြို့။ | ၁၀၀ - |
| ၄၉။ | ဒေါ်တာတာ၊ ဒါးတန်း မန္တလေးမြို့။ | ၂၅၀ - |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ ကျပ် – ပြား |
|---|---|---|
| ၅၀။ | ဒေါ်သန်းရင်၊ ဒါးတန်း မန္တလေးမြို့။ | ၅၀ – |
| ၅၁။ | ဒေါ်ဝွန်း၊ ဒါးတန်း မန္တလေးမြို့။ | ၅၀ – |
| ၅၂။ | မခိုင်ခိုင်၊ စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၂၀၀ – |
| ၅၃။ | ဦးအေး – ဒေါ်မြသိန်း<br>စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၃၀၀ – |
| ၅၄။ | ဦးမြင့်ဦး – ဒေါ်စိုး<br>စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ – |
| ၅၅။ | ဦးတင်မြ – ဒေါ်အုန်းတင်<br>စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၅၀ – |
| ၅၆။ | ဦးစိန်ဝင်း – ဒေါ်မြင့်မြင့်<br>စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၂၀၀ – |
| ၅၇။ | ဦးသန်းအောင် – ဒေါ်အေးလှ<br>စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၃၀၀ – |
| ၅၈။ | ဦးဘုန်းကျော်၊<br>စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၅၀ – |
| ၅၉။ | မစုစု၊ စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ – |
| ၆၀။ | မပိုင်စိုးရီ၊ စိန်ပန်း မင်းကုန်းရပ်<br>မန္တလေးမြို့။ | ၂၅ – |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ ကျပ် - ပြား |
|---|---|---|
| ၆၁။ | မသိင်္ဂီအေး၊ စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၅၀ - |
| ၆၂။ | ဦးကျော်မင်း - ဒေါ်စိန်ခင် စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၄၅ - |
| ၆၃။ | ဦးဇော်ဝင်း - မခင်မူကျော် စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ - |
| ၆၄။ | ဦးကံဆောင် - ဒေါ်မြမြ စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၂၀၀ - |
| ၆၅။ | မစန်းစန်းအေး စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ - |
| ၆၆။ | ဦးအေး - ဒေါ်လှလှ စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ - |
| ၆၇။ | ဦးရွှေသောင် - ဒေါ်ချိုသန်း စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၃၀၀ - |
| ၆၈။ | ဦးသိန်းဝင်း - ဒေါ်ခင်မိ စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၂၀၀ - |
| ၆၉။ | ဦးတင်အောင် - ဒေါ်သန်းစိန် စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ - |

| | | ကျပ် – ပြား |
|---|---|---|
| ၇၀။ | ဒေါ်ခင်ရို၊ စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ – |
| ၇၁။ | ဒေါ်ခင်မြမူ၊ စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ – |
| ၇၂။ | ဦးစိုးမြင့် – ဒေါ်တင်ရီ စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၅၀ – |
| ၇၃။ | ဦးမြင့်အေး – ဒေါ်အေးအေး စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ – |
| ၇၄။ | ဦးထွန်းရွှေ – ဒေါ်ငြိမ်း စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ – |
| ၇၅။ | အကျိုးတော်ဆောင် စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၃၀ – |
| ၇၆။ | ရတနာထွန်း ဈေးသူဈေးသားများ စိန်ပန်း သံလျက်မှော်အနောက် မန္တလေးမြို့။ | ၅၀၀ – |
| ၇၇။ | ဦးစိန်လှမော် – ဒေါ်ခင်ရီ (မလိခလွှက်ရည်ဆိုင်) စိန်ပန်း သံလျက်မှော်အနောက် မန္တလေးမြို့။ | ၃၀၀ – |
| ၇၈။ | ဦးတင်ငွေ – ဒေါ်သိန်းသိန်း စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ – |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ<br>ကျပ် - ပြား |
|---|---|---|
| ၇၉။ | ဦးသိန်းဇော် - ဒေါ်မြင့်မြင့် (ဝပ်ရှော့)<br>စိန်ပန်း မင်းကုန်းရပ် မန္တလေးမြို့။ | ၁၀၀ - |
| ၈၀။ | (ဦးပေါ) အားရည်စူး၍ ဒေါ်အုန်းခင် မိသားစု<br>ဒေါင်းရိုးရပ် မန္တလေးမြို့။ | ၅၀၀ - |
| ၈၁။ | ဒေါ်လှမြင့် မိသားစု (ထမင်းဆိုင်)<br>ဒေါင်းရိုးရပ် မန္တလေးမြို့။ | ၁၀၀ - |
| ၈၂။ | စင်စိန်ကွန်း ဦးပု - ဒေါ်အုန်းလှ မိသားစု<br>(၈) ၈၅ လမ်း ဝါးတန်း မန္တလေးမြို့။ | ၃၀၀ - |
| ၈၃။ | ဦးရှမ်ကျွမ် - ဒေါ်ကွိအိမ် မိသားစု<br>၈၆ လမ်း၊ အရှေ့ဘက် ဝါးတန်း<br>မန္တလေးမြို့။ | ၃၀၀ - |
| ၈၄။ | ဒေါ်ရီ၊ ဒေါ်ညို<br>၃၁ လမ်း၊ ဒီဘိုးရပ် မန္တလေးမြို့။ | ၁၀၀၀ - |
| ၈၅။ | ဦးခင်မောင်လှ - ဒေါ်လေးလေးမင်း<br>၂ ရုံ - ဈေးချို မန္တလေးမြို့။ | ၅၀၀ - |
| ၈၆။ | (ဒေါ်မမ) အားရည်စူး၍<br>ကိုမြင့်သိန်း မောင်နှမတစ်စု<br>၂ ရုံ - ဈေးချို မန္တလေးမြို့။ | ၅၀၀ - |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ<br>ကျပ် - ပြား |
|---|---|---|
| ၈၇။ | ဦးစံရင် - ဒေါ်စိန်စိန် မိသားစု<br>၂ ရံ - ဈေးချို မန္တလေးမြို့။ | ၂၀၀ - |
| ၈၈။ | ဦးဝင်းသိန်း - ဒေါ်ကျင်နု မိသားစု<br>၂ ရံ - ဈေးချို မန္တလေးမြို့။ | ၃၀၀ - |
| ၈၉။ | ဒေါ်ဝင်း<br>သွီး - လေးလေးဟန်၊ လေးလေးမွန်<br>မဲအိုးတန်းရပ် မန္တလေးမြို့။ | ၅၀၀ - |
| ၉၀။ | ဦးတင်ထွန်း - ဒေါ်လှသိန်း မိသားစု<br>ယောဝင်း ၈၄ လမ်း၊ မန္တလေးမြို့။ | ၅၀၀ - |
| ၉၁။ | ဦးရွှေ - ဒေါ်မ၊ ရွှေရွှေစတိုး မိသားစု<br>၂၈ လမ်း၊ သံဖြူတန်း မန္တလေးမြို့။ | ၅၀၀ - |
| ၉၂။ | ဒေါ်ဆက်ဆက်<br>၂၈ လမ်း၊ သံဖြူတန်း မန္တလေးမြို့။ | ၃၀၀ - |
| ၉၃။ | ဦးအုန်းဖေ<br>၂၈ လမ်း၊ သံဖြူတန်း မန္တလေးမြို့။ | ၁၀၀ - |
| ၉၄။ | ဦးရာပို မိသားစု<br>၃၀ လမ်း၊ လမ်းလယ်ဘုရား မန္တလေးမြို့။ | ၁၀၀ - |
| ၉၅။ | ဦးအေးမောင် - ဒေါ်အမာ မိသားစု<br>(ကျောက်ဆစ်) ဘုရားကြီးအနောက်<br>မန္တလေးမြို့။ | ၃၀၀ - |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ<br>ကျပ် – ပြား |
| --- | --- | --- |
| ၉၆။ | ဦးစိန်ရုံး မိသားစု၊ လှော်ကွက်လုပ်ငန်း၊<br>နှင်းဆီလမ်း သီပေါမြို့။ | ၅၀၀ – |
| ၉၇။ | ဒေါ်စိန်ခင်<br>ကျောက်တာရှာ စစ်ကိုင်းမြို့နယ်။ | ၁၀၀ – |
| ၉၈။ | ဦးကြောင်နီ – ဒေါ်လှလှ<br>ကျောက်တာရှာ စစ်ကိုင်းမြို့နယ်။ | ၅၀၀ – |
| ၉၉။ | ဒေါ်အေးလှိုင်၊ သမီး – မချစ်ပို၊<br>မြေး – သူဇာနွယ်နွယ်သင်း<br>ကျောက်တာရှာ စစ်ကိုင်းမြို့နယ်။ | ၂၀၀ – |
| ၁၀၀။ | ဒေါ်ထိမ်း၊ သမီး – ဒေါ်တင်နု<br>မောင် – ဦးချစ်ရီ – ဒေါ်ကြင်မြိုင် မိသားစု<br>ကျောက်တာရှာ စစ်ကိုင်းမြို့နယ်။ | ၃၀၀ – |
| ၁၀၁။ | ဦးလှရွှေ – ဒေါ်ခင်ဆွေ၊ တူ တူမများ<br>(မြို့ကျော် ပရိဘောဂ)<br>၃၅ အေလမ်း၊ မန္တလေးမြို့။ | ၂၅၀ – |
| ၁၀၂။ | ဒေါ်ညွန့်၊ ဒေါ်အမာ၊ ညီမ – ဒေါ်မမ<br>ဦးစိန် – ဒေါ်မြမြ<br>မလွန်ငါးပိတန်း မန္တလေးမြို့။ | ၃၀၀ – |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ ကျပ် – ပြား |
|---|---|---|
| ၁၀၃။ | ကိုအောင်ဇော် – မမိုးမိုး<br>သားတော် – မျိုးဇော်ထက်<br>ဆေးရုံကြီးတောင်ဘက် မန္တလေးမြို့။ | ၅၀၀ – |
| ၁၀၄။ | ကိုခင်မောင်သန်း – မအေးအေးနိုင်<br>သား – သက်နိုင်ဦး<br>မလွန်ကတ္တူရပ် မန္တလေးမြို့။ | ၁၀၀ – |
| ၁၀၅။ | ဦးသန်းထွန်း – ဒေါ်ဝင်းဝင်းမြိုင်<br>(ရွှေငါးမိသားစု) မန္တလေးမြို့။ | ၃၀၀ – |
| ၁၀၆။ | ဒေါက်တာ ဦးကျော်လတ် – ဒေါ်ခင်ပြုံး<br>အင်းယားမြိုင်လမ်း ရန်ကုန်မြို့။ | ၅၀၀၀ – |
| ၁၀၇။ | ဦးရဲဒွေး – ဒေါ်ချိုချို မိသားစု<br>အင်းယားမြိုင်လမ်း ရန်ကုန်မြို့။ | ၂၀၀ – |
| ၁၀၈။ | ဦးသန်းမောင်၊ မဥ္ဇူသက၊ ၁၁၆ အကွဲ<br>တက္ကသိုလ်ရိပ်သာလမ်း ရန်ကုန်မြို့။ | ၁၀၀၀ – |
| ၁၀၉။ | ဒေါက်တာ ခင်မောင် – ဇနီး ဒေါ်ခင်သန်းနွဲ့<br>တက္ကသိုလ်ရိပ်သာလမ်း ရန်ကုန်မြို့။ | ၅၀၀ – |
| ၁၁၀။ | ဒေါ်ဒေါ်သန်း၊ တက္ကသိုလ်ရိပ်သာလမ်း<br>ရန်ကုန်မြို့။ | ၅၀၀ – |
| ၁၁၁။ | ဒေါ်သီ၊ တက္ကသိုလ်ရိပ်သာလမ်း ရန်ကုန်မြို့။ | ၃၀၀ – |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ ကျပ် - ပြား |
| --- | --- | --- |
| ၁၁၂။ | မောင်ကြည်စိုး မိသားစု (ဖော်မီကာဆိုင်) ၃၉ လမ်း၊ ရန်ကုန်မြို့။ | ၁၀၀၀ - |
| ၁၁၃။ | ဒေါ်အေးသန်း မိသားစု၊ ၃၉ လမ်း၊ ရန်ကုန်မြို့။ | ၂၄၀ - |
| ၁၁၄။ | ဒုဗိုလ်မှူးကြီး သန်းငြိမ်း ဇနီး ဒေါ်ခင်သွယ်သွယ်မြင့် (က - က - နက်) မိသားစု၊ ရန်ကုန်မြို့။ | ၁၀၀၀ - |
| ၁၁၅။ | ဗိုလ်ကြီး စိန်မြင့် - ဇနီး ဒေါ်ခင်စမ်းရီ မိသားစု၊ (ပ - ပ - န) ရန်ကုန်မြို့။ | ၁၀၀၀ - |
| ၁၁၆။ | အရာရှိ အရာခံ တပ်ကြပ်ကြီးများ မိသားစု (အရာရှိပစ္စည်းအရောင်းဆိုင်) ရန်ကုန်မြို့။ | ၁၀၀၀ - |
| ၁၁၇။ | ဦးအောင်နိုင်ထွန်း - ဒေါ်ခင်ခင်စော မိသားစု ဒဂုံ ၃၊ ရန်ကုန်မြို့။ | ၅၀၀ - |
| ၁၁၈။ | တပ်ကြပ်ကြီး ဦးလှဦး - ဒေါ်ဝင်းမြ (က - က - နက်) မိသားစု၊ ရန်ကုန်မြို့။ | ၁၀၀၀ - |
| ၁၁၉။ | ဒေါ်သိန်းညွှန့်၊ သန္တိသုခချောင် တောဇစက္ကူကမ္မဋ္ဌာန်းတိုက်၊ စစ်ကိုင်းတောင်ရိုး။ | ၂၀၀ - |
| ၁၂၀။ | ဦးမြင့်ဆောင် - ဒေါ်တင်စန်း မိသားစု (ရွှေတာနို့ဆီ) စစ်ကိုင်းမြို့သစ်။ | ၅၀၀ - |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ |
| --- | --- | --- |
| | | ကျပ် - ပြား |
| ၁၂၁။ | ဦးငွေဘူး၊ သား - ဦးဆောင်း - ဒေါ်ပုမ မိသားစု၊ ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၅၀၀ - |
| ၁၂၂။ | ဦးအင်း - ဒေါ်လှပြည့် မိသားစု ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၅၀၀ - |
| ၁၂၃။ | ဦးခက်ကြီး - ဒေါ်တိုး မိသားစု ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၂၀၀ - |
| ၁၂၄။ | ဦးဝင်းမောင်၊ အမိ ဒေါ်အေးပိုင် မိသားစု ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၂၀၀ - |
| ၁၂၅။ | ဒေါ်အေးနိုင်၊ သား ဦးချစ်ရွှေ - ဒေါ်ထားရီ မိသားစု၊ ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၁၀၀ - |
| ၁၂၆။ | ဦးသာခွေး - ဒေါ်လှသီ မိသားစု ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၁၀၀ - |
| ၁၂၇။ | ကိုမြင့်လေး - မမိုးမိုး ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၁၀၀ - |
| ၁၂၈။ | ဒေါ်ချိုအေး တူအရီးတစ်စု ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၁၀၀ - |
| ၁၂၉။ | ဦးအောင်စိန် - ဒေါ်ခင်တာ မိသားစု ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၁၀၀ - |
| ၁၃၀။ | (ဦးခွင်း ပုချို) အားရည်စူး၍ ဒေါ်တင်ညို မိသားစု၊ ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၂၀၀ - |

| စဉ် | ကုသိုလ်ရှင်အမည်နှင့် နေရပ်လိပ်စာ | ဝတ္ထုငွေ ကျပ် - ပြား |
|---|---|---|
| ၁၂၁။ | ဒေါ်တင်မြ၊ ကျောက်ကာရွာ စစ်ကိုင်းမြို့နယ်။ | ၂၀၀ - |
| ၁၂၂။ | ဒေါ်သန်းတင်၊ ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၅၀ - |
| ၁၂၃။ | ဦးသောင်း - ဒေါ်သိုင်းခြုံ ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၂၅ - |
| ၁၂၄။ | ဒေါ်လှပို မိသားစု ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၅၀ - |
| ၁၂၅။ | ဦးရီ - ဒေါ်ညွန့်စီ ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၂၀၀ - |
| ၁၂၆။ | ဒေါ်ပေါ်ဆင့်၊ ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၁၀၀ - |
| ၁၂၇။ | ဒေါ်ငွေဖီ၊ သား - ဦးအောင်ဆန်း၊ သမီး - ဒေါ်စိုးနိုင် မိသားစု ကျောက်တာရွာ စစ်ကိုင်းမြို့နယ်။ | ၅၀၀ - |
| ၁၂၈။ | ဦးအောင်ကြည်၊ ဒေါ်ခင်တင့်၊ ဒေါ်တင်လှ (ရွှေလှကြည်ဂျုံစက်) စိန်ပန်း မန္တလေးမြို့။ | ၁၀၀၀ - |
| ၁၂၉။ | ဦးကျော်ဝင်း - ဒေါ်သန်းရင် မိသားစု တိမ်ပြာတန်း မန္တလေးမြို့။ | ၂၀၀ - |

# ညောင်ကုန်းဆွမ်းကျွေးအဖွဲ့

## စစ်ကိုင်းမြို့နယ်

| | |
|---|---|
| ၁။ ဦးကျော်သိန်း တာတိုင်ရပ်၊ ညောင်ကုန်း | ၃၀၀ |
| ၂။ ဒေါ်ညွန့်ရီ မောင် – ကိုညွန့်မောင် ဒေါ်ညွန့်ကြည် မောင် – ကိုညွန့်လှိုင် } တောင်ရပ် ညောင်ကုန်း | ၅၀၀ |
| ၃။ ဒေါ်အုန်းစိန် ဈေးအတွင်း၊ ညောင်ကုန်း | ၅၀၀ |
| ၄။ ဒေါ်မြငွေး အရှေ့ရပ်၊ ညောင်ကုန်း | ၁၀၀ |
| ၅။ ဦးစန်းယု – ဒေါ်ခင်စန်းထူး တာတိုင်ရပ်၊ ညောင်ကုန်း | ၅၀ |
| ၆။ ဦးတွေးကြီး – ဒေါ်လှဝေ အရှေ့ရပ်၊ ညောင်ကုန်း | ၅၀ |
| ၇။ ဒေါ်သောင်းကြည်၊ ရွာလယ် | ၂၅၀ |
| ၈။ ဦးလှရွှေ – ဒေါ်မြအေး၊ တာတိုင်၊ ညောင်ကုန်း | ၂၅၀ |
| ၉။ ဒေါ်ရှမ်း ဈေးအတွင်း၊ ညောင်ကုန်း | ၁၀၀ |
| ၁၀။ ဒေါ်သောင်း ကနတော်၊ ညောင်ကုန်း | ၁၀၀ |
| ၁၁။ ဒေါ်ကြည်ကြည်မာ ကွက်သစ်၊ ညောင်ကုန်း | ၅၀ |
| ၁၂။ ဒေါ်ကြည်ဝင်း မောင် – ကိုသိန်းဝင်း ကွက်သစ်၊ ညောင်ကုန်း | ၅၀ |
| ၁၃။ ဒေါ်ပုပု ဈေးအတွင်း၊ ကွက်သစ် | ၅၀ |
| ၁၄။ ဦးပြုံး – ဒေါ်သိန်းချုပ်၊ လမင်းလက်ဖက်စုံဆိုင် | ၂၅၀ |
| ၁၅။ ဦးခင်မောင်သိန်း – ဒေါ်မြင့်မြင့်သန်း မိသားစု တရုတ်တန်းဈေး | ၂၀၀ |
| | ပေါင်း ၂၈၀၀ |

ကွယ်လွန်ပြီးကြကုန်သော
ကျေးဇူးရှင် နှစ်ဘက်မိဘ အသီးသီးတို့အား ရည်စူး၍

မန္တလေးမြို့၊ ပဲလော့ချောင်ရပ်

**ဦးထွန်းကြည် - (ဒေါ်သိန်းခင်)**

နှင့်

**သား ၅ ယောက်၊ သမီး ၅ ယောက်၊ မြေး ၁၁ ယောက်**

ကောင်းမှု

# ဓမ္မဒါန

ဒုတိယအကြိမ် ရိုက်နှိပ်ခြင်း
အုပ်ရေ - ၅၀၀
၁၃၆၅ ခုနှစ်၊ ဒုတိယဝါဆိုလ



ဦးဓမ္မာစရ

## ပထမထွင့်ခေါင်ဆရာတော်ဘုရားကြီး၏
## ကမ္မဋ္ဌာန်းသံပေါက် ကောက်နုတ်ချက်များ

ခန္ဓာကြွေလျော၊ ရှိပြန်သော၊ ပူဇော လောင်လှပြီ။
သွားကျိုး, ဆံဖြူ၊ ရှိပြန်မူ၊ ဘယ်သူ မကြောက်ပြီ။
ဤသည့်မယား၊ ဤသည့်သား၊ မိးပွားမုန်တော့သည်။
ခယ ဝယ၊ ဘိဇ္ဇန၊ ပျက်လှလေကုန်ပြီ။
အပ္ပိယေဟိ၊ ပိယေဟိ၊ ဒုက္ခိကြုံလေပြီ။
ဒုက္ခထွေထွေ၊ တပေပေ၊ ခံနေရလေပြီ။

---

ထူးမြတ်စွာလှ၊ လူ့ဘဝ၊ နှမြောကြကုန်မင်း။
မြတ်သည်ကိုမှ၊ မသိကြ၊ ဗာလနှလုံးသွင်း။
ဗာလဖြစ်က လူ့ပါပ ကြာကြကုန်ပြီမင်း။
လူဖြစ်ကျိုးမှ၊ မခံရ၊ ရှုံးလှချေ၏မင်း။
ဘဝတိုင်းရှုံး၊ လူ့ကျောက်တုံး၊ စုံးစုံးမြုပ်၏မင်း။
စုံးစုံးမြုပ်ခါ၊ မပေါ်လာ၊ ကြမ္မာမှောက်၏မင်း။

